ထိခိုက်မှုရှိကြောင်း အသိပညာပေးပြောကြားပြီး ကိုယ်ပိုင်အသိစိတ်ဓါတ်ဖြင့် ဝတ်ဆင်ရေးအတွက် ဆုပေး/ဒဏ်ပေးစနစ်များဖြင့် ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

(ခ) ပွန်းစားမှုကြောင့်အသံဆူညံစွာထက်ရှိနိုင်မည့် စက်ပစ္စည်းများအား ပုံမှန်စစ်ဆေးလဲလှယ်သွားရမည်ဖြစ်ပါသည်။

(ဂ)စက်ရုံလုပ်သားများအသံဆူညံမှုကြောင့်အကြားအာရုံထိခိုက်မှုမရှိစေရန်ကျောက်ကြိတ်ခွဲစက်အား ကွန်ကရစ်ကန်အတွင်းထည့်သွင်းထားရှိသော်လည်း ကွန်ကရစ်ကန် အပေါ်ဘက်တွင်ဖုံးအုပ်ထားသောအဖုံးသည် သေသပ်ခြင်းမရှိခြင်းကြောင့် အသံဆူညံမှုအား လုံလောက်စွာလျှော့ချပေးနိုင်ခြင်းမရှိကြောင်းတွေ့ရှိရပါသည်။ ထိုကြောင့်ကွန်ကရစ်ကန်အပေါ်ဘက်အားအောက်ဖော်ပြပါပုံတွင် ပြထားသည့်အတိုင်းသစ်သားပြားအထူ(သို့)သံပြားအထူဖြင့်လုံခြုံစွာဖုံးအုပ်ထားရှိရမည်ဖြစ်ပါသည်။ အဆိုပါ အသံထိန်းချုပ်ခြင်းသည် ဖုန်မှုန့်ထွက်ရှိခြင်း အားလည်းထိန်းချုပ်ပေးနိုင်ပါသည်။ အဖုံးများအားအသေတပ်ဆင်ရန်မလိုအပ်ပဲ ကျောက်ကြိတ်စက်အားပြင်ဆင်နိုင်ရန် အရှင်တပ်ဆင်ထားနိုင်ပြီး ကျောက်ကြိတ်ခွဲသည့်အချိန်တွင်မှုဖုံးအုပ်ထားရှိရမည်ဖြစ်ပါသည်။




**ကျောက်ကြိတ်စက်အားဖုံးအုပ်ထားရှိခြင်း**

(ဃ) စက်ပစ္စည်းများအားမည်မျှပင် ထိန်းချုပ်စေကာမူ အသံဆူညံမှုသည် ကျွင်းကျန်မည်ဖြစ်၍ထမ်းမံ၍အလုပ်သမားများအားအသံဆူညံမှုထိန်းချုပ်နိုင်သောနားကြပ်နှင့်အမှုန်အမွှားရှူရှိုက်မှုလျော့နည်းစေရန် နှာခေါင်းစည်းများအား ဝတ်ဆင်ထားရှိစေရန်သာ လိုအပ်မည် ဖြစ်ပါ

သည်။ သတိပြု ရန်အချက်မှာ အထက်တွင်လုပ်ဆောင်ထားရှိရမည့် စက်ပစ္စည်းများအား ထိန်းချုပ်မှုများအား အရင်လုပ်ဆောင်ပြီးမှ အလုပ်သမားများအားအကာအကွယ်ပစ္စည်းများ ဝတ်ဆင်စေရမည် ဖြစ်ပါသည်။တစ်နည်းအားဖြင့် အလုပ်သမားကျန်းမာရေးနှင့် လုံခြုံစိတ်ချရေးဆိုင်ရာအစီအမံများအရ အလုပ်သမား များအား အကာအကွယ်ပစ္စည်းများ အား အခြားထိန်းချုပ်ခြင်းဆိုင်ရာ များ လုပ်ဆောင်ခြင်းမပြုပဲဝတ်ဆင်စေခြင်းမျိုးမဟုတ်ပဲစက်ပစ္စည်းများအားအရင် ကာကွယ်လုပ်ဆောင်ပြီးမှသာလျှင် အလုပ်သမားများ အား ဝတ်ဆင်စေရမည်ဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် အလုပ်သမားများသည် အကာအကွယ် ပစ္စည်းများအားအမြဲကြာရှည်စွာဝတ်ဆင်ရန်ဆန္ဒမရှိခြင်းကြောင့်ဖြစ်သည်။ ထို့အပြင်အလုပ်သမားများ မိမိကိုယ်ပိုင်အသိစိတ်ဖြင့်ဝတ်ဆင်မှုရှိစေရန်ရရှိနိုင်သည့်အသံနှင့်ဖုန်မှုန့်ထိခိုက်မှုများအား အသိပညာပေး ပြောကြားပြီးလိုအပ်လျှင် သင်တန်းပေးရမည်ဖြစ်ပါသည်။

(င)ကျောက်စများလွင့်စင်မှုမှကာကွယ်နိုင်ရေးအတွက်ကျောက်ကြိတ်စက်တွင်ကျောက်စလွင့်စင်မှုရှိနိုင်သောနေရာတိုင်းအား အလုပ်သမားများဆီသို့တိုက်ရိုက်မရောက်ရှိစေရန် အဖုံးအကာ (သို့မဟုတ်) အကာအကွယ် ပြုလုပ်ထားရမည်ဖြစ်ပါသည်။

ဂှင်းအပြင် လေထုအရည်အသွေးတိုင်းတာမှုရလာဒ်များအရ အရည်အသွေး အတော်များများသည် သတ်မှတ်စံနှုန်းထက် လျော့နည်းနေသော်လည်း အမှုန်အမွှား လွင့်စင်မှုဖြစ် သည့် PM 10 နှင့် PM 2.5 တို့မှာ သတ်မှတ်စံနှုန်းထက် များပြားနေသေးကြောင်းတွေ့ရှိရပါသည်။ အလုပ်ခွင်တွင်အမှုန်အမွှားများပြားခြင်းသည်အလုပ်သမားများအသက်ရှုလမ်းကြောင်းဆိုင်ရာရောဂါများ၊ အဆုတ်ရောဂါများ ဖြစ်စေနိုင်ပါသည်။



ကျောက်ကြိတ်စက်အနားလေထုအရည်အသွေးတိုင်းတာခြင်း

**(က) အမှုန်အမွှားများလျော့နည်းစေရန်စက်ရုံမှလုပ်ဆောင်ထားရှိချက်များ**

အမှုန်အမွှားများလျော့ချရန်စက်ရုံမှ သတ္တုရိုင်းများအားမကြိတ်ခွဲမီ ရေဖြန်းထားရှိပါသည်။ အလုပ်သမားများအားလည်း နှာခေါင်းစည်းဝတ်ဆင်ထားရှိစေပါသည်။

**(ခ) စက်ရုံမှအမှုန်အမွှားထိန်းချုပ်ရန်ထပ်မံလုပ်ဆောင်ရန်လိုအပ်မှုများ**

လုပ်ငန်းခွင်တွင်အမှုန်အမွှားထိန်းချုပ်ရန်အတွက်လုပ်ဆောင်ရန်မှာ ပတ်ဝန်းကျင်သို့အမှုန်အမွှား ပျံ့လွင့်မှုထိန်းချုပ်ရန် လုပ်ဆောင်ခြင်းနှင့်အတူတူပင်ဖြစ်ပါသည်။ ဆိုလိုသည်မှာ လက်ရှိ ပက်ဖြန်းနေသော ရေဖြန်း စနစ်အား ဖိအားသုံးရေမှုန်များဖြင့်ဖြန်းပက်သည့်စနစ် ဖြင့် အစားထိုးရန်လိုအပ်ပါသည်။

**၆-၃။ ကြိတ်ခွဲကျောက်ရိုင်းများသယ်ယူသောအဆင့်တွင်ပတ်ဝန်းကျင်နှင့်လုပ်သားများအပေါ် ထိခိုက်နိုင်မှုများ**

ကျောက်ရိုင်းများအားကြိတ်ခွဲပြီး ကျောက်အမှုန့်ကြိတ်စက်သို့ သယ်ယူရာ လမ်းတစ်လျှောက်တွင် ကြိတ်ခွဲကျောက်ရိုင်းများမှ ဖုန်မှုန့်အနည်းငယ်ထွက်ရှိပါသည်။

**၆-၃-၁။ ပတ်ဝန်းကျင်အပေါ် ထိခိုက်နိုင်မှုများ**

ကြိတ်ခွဲပြီးသည့်သတ္တုရိုင်းများအား မကြိတ်ခွဲမီရေပက်ဖြန်းထားရှိခြင်းကြောင့်ဖုန်မှုန့်အများထွက်ရှိခြင်းမရှိသောကြောင့် ပတ်ဝန်းကျင်အပေါ် ထိခိုက်မှုနည်းပါးပါသည်။

**(က) ပတ်ဝန်းကျင်အပေါ် ထိခိုက်ခြင်းမရှိစေရန်စက်ရုံမှလုပ်ဆောင်ထားရှိချက်များ**

စက်ရုံမှ သတ္တုရိုင်းများအားကြိတ်ခွဲခြင်းမပြုမီ ရေဖြင့်ဖြန်းပက်ထားရှိသည့်အပြင် မိုးတွင်းကာလတွင် ကြိတ်ခွဲကျောက်ရိုင်းများနှင့်မိုးရေများစိုစွတ်ရောနှောခြင်းမရှိစေရန်ကြိတ်ခွဲကျောက်ရိုင်းများသယ်ယူရာ ရွေ့လျားသယ်စက် လမ်းတစ်လျှောက်အား အမိုးအကာများဖြင့်အုပ်မိုးထားရှိပါသည်။



**ရွေ့လျားသယ်စက်အားအမိုးအကာဖြင့်အုပ်မိုးထားရှိပုံ**

**(ခ) ထပ်မံလုပ်ဆောင်ရန်လိုအပ်မှုများ**

စက်ရုံမှ ကြိတ်ခွဲကျောက်ရိုင်းများသယ်ယူရာလမ်းတစ်လျှောက် ပတ်ဝန်းကျင်ထိခိုက်မှုလျော့နည်းစေရန် ထပ်မံ လုပ်ဆောင်ရန်လိုအပ်ခြင်းမရှိပါ။

**၆-၃-၂။ စက်ရုံလုပ်သားများအပေါ်ထိခိုက်နိုင်မှုများ**

ကြိတ်ခွဲကျောက်ရိုင်းများ သယ်ပို့ရာ လမ်းတစ်လျှောက်တွင် စက်ရုံ လုပ်သားများ အနေဖြင့် မတော်တဆ ထိခိုက်မှုရှိခြင်း၊ ဖုန်မှုန့်အနည်းငယ်ရှူရှိုက်မှုရှိနိုင်ခြင်းတို့ရှိနိုင်ပါသည်။ကျောက်ခွဲစက်မှကျောက်ကြိတ်စက် သယ်ဆောင်ရာ လမ်းတစ်လျှောက် လေထုအရည်အသွေး တိုင်းတာခြင်း လုပ်ဆောင်ခဲ့ပါသည်။



ကျောက်ရိုင်းများသယ်ပို့ရာရွေ့လျားသယ်ပို့စက်အနီး လေထုအရည်အသွေးတိုင်းတာနေပုံ

တိုင်းတာမှုရလာဒ်များအရလေထုအရည်အသွေးတစ်ခုဖြစ်သောအမှုန်အမွှားဖုံ့လွင့်မှု PM $_{10}$ နှင့် PM $_{2.5}$ တို့မှာ သတ်မှတ် စံနှုန်းထက် အနည်းငယ် များပြားနေကြောင်းတွေ့ရှိရပါသည်။

**(က) စက်ရုံမှလုပ်ဆောင်ထားရှိချက်များ**

စက်ရုံမှ အလုပ်သမားများအား လုံခြုံရေးဦးထုပ် (Safety Halmat)၊ လက်အိတ် (Safety Glove)၊ လုံခြုံရေးဖိ နပ် (Safety Shoe)၊ နှာခေါင်းစည်း (Mask) အစရှိသည်တို့အား ပံ့ပိုးဝတ်ဆင် ထားရှိစေကြောင်း တွေ့ရှိရပါသည်၊ ကြိတ်ခွဲပြီးသော ကျောက်များအားလည်း မတော်တဆထိခိုက်မှုနည်းပါးစေရန် လူအား အသုံးပြုသယ်ယူခြင်းမရှိပဲ ကျောက်သယ်ယာဉ်အား အသုံးပြုထားပြီး ကြိတ်ခွဲပြီးကျောက်များအားလည်း ရွေ့လျားကျောက်သယ်စက် (Conveyor) အားအသုံးပြု၍ သယ်ဆောင်ကြောင်း တွေ့ရှိရပါသည်။



ကျောက်သယ်စက်

**(ခ) စက်ရုံမှထပ်မံလုပ်ဆောင်ရန်လိုအပ်မှုများ**

ကြိတ်ခွဲပြီးကျောက်ရိုင်းများအားကျောက်ကြိတ်စက်သို့ပို့ဆောင်ရာလမ်းတစ်လျှောက် စက်ရုံလုပ်သားများအပေါ် ထိခိုက်မှုလျော့နည်းစေရန် ထပ်မံလုပ်ဆောင်ရန်မလိုအပ်ပါ။

**၆-၄။ ကျောက်အမှုန့်ကြိတ်ခြင်းကြောင့်ပတ်ဝန်းကျင်နှင့်စက်ရုံလုပ်သားများအပေါ် ထိခိုက်နိုင်မှုများ**

ကြိတ်ခွဲပြီးသည့် ကျောက်ရိုင်းများအား အက်ဆစ် နှင့် ရောစပ်ခြင်းမပြုမီ အမှုန့်ကြိတ်ရမည် ဖြစ်ပါသည်။ ကျောက်ကြိတ်စက်များသည် ပုံမှန်အားဖြင့် အသံဆူညံပါသည်။ အမှုန်အမွှားထွက်ရှိမှုအနေဖြင့် ရေပက်ဖြန်းပြီး အမှုန့်ကြိတ်ခြင်းကြောင့် အမှုန်အမွှားထွက်ရှိမှုလုံးဝမရှိပါ။တိုင်းတာချက်များအရ ကျောက်ကြိတ်စက်အနီးတွင် အသံဆူညံမှုမှာ (၉၅ မှ ၁၀၀ ဒယ်စီဗယ်) အထိရှိကြောင်း တွေ့ရှိရပါသည်။ အဆိုပါ အသံဆူညံမှုတွင် အလုပ်သမားများသည် ၂ နာရီထက်ပိုမိုပြီးအလုပ်လုပ်ကိုင်ခြင်းမရှိရပါ။

**၆-၄-၁။ ပတ်ဝန်းကျင်အပေါ် ထိခိုက်နိုင်မှုများ**

ပတ်ဝန်းကျင်အပေါ် ထိခိုက်နိုင်မှုများအနေဖြင့် ကျောက်ကြိတ်စက်မှ ထွက်ရှိလာသော အသံဆူညံမှု သည် တွက်ချက်မှုများအရအနီးဆုံးလူနေရပ်ကွက်ဖြစ်သည့်စက်မှုဇုန်အရှေ့ရပ်ကွက်သို့အသံဆူညံမှုရောက်ရှိခြင်းမရှိနိုင်ပါ။သို့သော်လည်း အနီးပတ်ဝန်းကျင်စက်ရုံရှိ စက်ရုံလုပ်သားများအပေါ်အသံဆူညံမှုရှိမည် ဖြစ်ပါသည်။ အဆိုပါအသံဆူညံမှုသည် စက်မှုဇုန်သဘောသဘာဝအရ နေ့ဘက်တွင်မသိသာသော်လည်း ညဖက်တွင်လည်းပတ်ပါက ပိုမိုဆူညံမှုရှိမည်ဖြစ်ပါသည်။

**(ဃ) စက်ရုံမှလုပ်ဆောင်ထားရှိချက်များ**

စက်ရုံမှ ကျောက်ကြိတ်စက်အား ပြင်ပတွင်ထားရှိခြင်းမပြုပဲပင်မစက်ရုံအတွင်းဘက်တွင်ထားရှိထားခြင်းဖြင့် ပတ်ဝန်းကျင်အပေါ်တွင် အသံဆူညံမှုအားလျော့နည်းစေပါသည်။



ကျောက်ကြိတ်စက်အားပင်မစက်ရုံအတွင်းထည့်သွင်းထားရှိပုံ

**(ခ) ပတ်ဝန်းကျင်အပေါ်ထိခိုက်နိုင်ခြင်းအတွက် လုပ်ဆောင်ရန်လိုအပ်မှုများ**

ကျောက်အမှုန့်ကြိတ်စက် အား ညဖက်တွင် လုံးဝလည်ပတ်ခြင်းမပြုရပါ။ ၎င်းအပြင် ကျောက်ကြိတ်စက် အား အသံဆူညံမှုလျော့နည်းစေရန် အသံစုပ်ယူနိုင်သောပစ္စည်းများ (ဥပမာ -Acoustic Foam, Acoustic cotton) စသည်တို့ဖြင့်ရစ်ပတ်ထားရှိပေးရမည်ဖြစ်ပါသည်၊ အဆိုပါပစ္စည်းများဖြင့် ရစ်ပတ်ထားရှိပါက လေ့လာချက်များအရ အသံဆူညံမှုသည် အတိုင်းအတာတစ်ခုအထိလျော့ကျသွားနိုင်ပါသည်။ သို့သော် လည်းအသုံးပြုသည့်ပစ္စည်းနှင့်ရစ်ပတ်သည့်နည်းစနစ်ကျ/မကျပေါ်မူတည်ပြီးဆူညံသံလျော့ကျမှုပြောင်းလဲမှုရှိနိုင်သည်ဖြစ်၍ အသံစုပ်ယူနိုင်သောပစ္စည်းများကိုအသုံးပြုမည်ဆိုပါက တပ်ဆင်ပြီးသည်နှင့်အသံဆူညံမှုတိုင်းတာပေးရမည်ဖြစ်ပါသည်၊ အကယ်၍တိုင်းတာရရှိသောအသံဆူညံမှုသည် လုပ်ငန်းခွင်တွင်ရှိသင့်သည့်စံသတ်မှတ်ချက်များထက်များနေမည်ဆိုပါကအသံစုပ်ယူသည့်ပစ္စည်းများဖြင့်ရစ်ပတ်ထားရှိခြင်းမှာ မလုံလောက်သဖြင့် ကျောက်အမှုန့်ကြိတ်စက် အား ကွန်ကရစ်အခန်းဖြင့်ထည့်သွင်းထားရှိရမည်ဖြစ်ပါသည်။

### ၆-၄-၂။ စက်ရုံလုပ်သားများအပေါ် ထိခိုက်နိုင်မှုများ

တိုင်းတာခြင်းရလာဒ်များအရအသံဆူညံမှုသည်စံသတ်မှတ်ချက်များအရအလုပ်သမားများသည်အလုပ်ချိန် (၂)နာရီထက်ပိုမိုမလုပ်သင့်ပါ။ ကျောက်ကြိတ်ခွဲချိန် သည် တစ်နေ့လျှင် ၂ နာရီ မှ၄နာရီခန့်ရှိမည်ဖြစ်သောကြောင့် လုပ်ငန်းခွင်အတွင်း ကျောက်အမှုန့်ကြိတ်စက်ကြောင့် ဖြစ်ပေါ်လာမည့် အသံဆူညံမှု အားလျှော့ချပေး ရမည်ဖြစ်ပါသည်။

#### (က) စက်ရုံမှလုပ်ဆောင်ထားရှိချက်များ

စက်ရုံမှ ကျောက်ကြိတ်စက်မှအသံဆူညံမှုအားထိန်းချုပ်ရန်လုပ်ဆောင်ထားခြင်းမရှိသေးကြောင်းတွေ့ရှိရပါသည်။

#### (ခ) ဆက်လက်လုပ်ဆောင်ရန်လိုအပ်ချက်များ

လုပ်သားများအပေါ် ကျောက်ကြိတ်စက်မှ အသံဆူညံမှုလျှော့နည်းစေရန်လုပ်ဆောင်မှုမှာ ပတ်ဝန်းကျင်အတွက်ကျောက်ကြိတ်စက်မှ အသံဆူညံမှုထိခိုက်မှုအားလုပ်ဆောင်ရမည့်နည်းလမ်းများနှင့်အတူတူပင်ဖြစ်ပါသည်။ အခြားလိုအပ်ချက်အနေဖြင့် ကျောက်ကြိတ်စက်အနီးရှိ အလုပ်သမားများအားနားကြပ်ဝတ်ဆင်စေရမည်ဖြစ်ပါသည်။

### ၆-၅။ ကျောက်မှုန့်နှင့်အက်ဆစ်အားရောစပ်ခြင်းအဆင့်တွင်ပတ်ဝန်းကျင်နှင့် စက်ရုံလုပ်သားများအပေါ် ထိခိုက်နိုင်မှုများ

အက်ဆစ်နှင့်ကျောက်မှုန့်များရောစပ်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် စက်ရုံလုပ်သားများအပေါ် ထိခိုက်နိုင်မှုမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

### ၆-၅-၁။ ပတ်ဝန်းကျင်သို့ထိခိုက်နိုင်မှုများ

ကျောက်မှုန့်နှင့် အက်ဆစ်များအား ဖျော်စပ်သည့်ကန်အား ဖုံးအုပ်ထားသော အဖုံးများလုံခြုံပါကပတ်ဝန်းကျင်သို့ထိခိုက်မှုမရှိနိုင်ပါ။

#### (က) စက်ရုံမှ လုပ်ဆောင်ထားရှိချက်များ

စက်ရုံမှ ဖျော်ကန်များ၏အဖုံးများအားလုံခြုံစွာဖုံးအုပ်ထားရှိပါသည်။



အက်ဆစ်ကန်များအားလုံခြုံစွာဖုံးအုပ်ထားရှိမှုများ

### (ခ) ထပ်မံလုပ်ဆောင်ထားရှိရန်လိုအပ်ချက်များ

ကျောက်မှုန့်နှင့်အက်ဆစ်ရောစပ်သောကန်အနီးတွင် ဟိုက်ဒရိုကလိုရစ်အက်ဆင်အငွေ့များယိုစိမ့်မှုရှိ/မရှိ ဓါတ်ငွေ့ယိုစိမ့်မှုတိုင်းတာသောကိရိယာဖြင့်တိုင်းတာခဲ့ရာ ယိုစိမ့်မှုမရှိကြောင်းတွေ့ရှိရပါသည်။ သို့သော် ပတ်ဝန်းကျင်ထိခိုက်မှု အတွက် အက်ဆစ်နှင့်ကျောက်မှုန့်ရောစပ်သော ကန်တွင် အဖုံးများလုံခြုံစွာဖုံးအုပ် ထားပြီးသော်လည်း အက်ဆစ်ငွေ့ယိုစိမ့်မှုရှိ/မရှိ အချိန်ပြည့်တိုင်းတာနိုင်သည့် အက်ဆစ်ငွေ့အာရုံခံကိရိယာ (HCl Detector) အား ကန်များအနီးတွင် တပ်ဆင်ထားရှိရမည်ဖြစ်ပါသည်။

### ၆-၅-၂။ စက်ရုံလုပ်သားများအပေါ်ထိခိုက်နိုင်မှုများ

စက်ရုံလုပ်သားများအပေါ်ထိခိုက်နိုင်မှုအနေဖြင့် ပိုက်ဆက်များ ဖိအားဒဏ်မခံနိုင်ခြင်းကြောင့် ကွဲထွက်သည့်အခါတွင်လည်းကောင်း၊ ပိုက်လုံးများယိုစိမ့်ထွက်မှုရှိသည့်အခါတွင်လည်းကောင်းအက်ဆစ် (သို့) အက်ဆစ်ငွေ့နှင့်တိုက်ရိုက်ထိတွေ့မှုရှိနိုင်ပါသည်။

### (ဂ) စက်ရုံမှလုပ်ဆောင်ထားရှိချက်များ

စက်ရုံမှ လုပ်သားများ အက်ဆစ်နှင့်တိုက်ရိုက်ထိတွေ့ပါက ရေအလျှင်အမြန်ဆေးကြောနိုင်ရေးအတွက် လက်ဆေးကန်များအား စက်ရုံအောက်ထပ်နှင့်အပေါ်ထပ်တွင် ထားရှိပါသည်။





အပေါ်ထပ်နှင့်အောက်ထပ်တွင်မျက်လုံးဆေးရန်နှင့်လက်ဆေးရန်တပ်ဆင်ထားရှိပုံ

(ခ) ထပ်မံလုပ်ဆောင်ရန်လိုအပ်မှုများ

အလုပ်သမားများသည် အက်ဆစ်နှင့် တိုက်ရိုက်ထိတွေ့မှုများရှိပါက အလွယ်တကူ ဆေးကြောနိုင်ရန် နှင့် အနီးကပ်ဆုံးနေရာသို့အလျှင်အမြန်သွားရောက်နိုင်ရန်မျက်လုံနှင့်လက်ဆေးကန်များအားလက်ရှိတပ်ဆင်ထားသော အရေအတွက်အပြင် စက်ရုံအပေါ်ဆုံးထပ်တွင် (၁) လုံး၊ အလည်ထပ်တွင် စက်ရုံအပေါ်ဘက်ထောင့်နှစ်ဘက်တွင် (၂)လုံးနှင့်စက်ရုံအောက်ထပ်ထောင့်နှစ်ဘက်တွင် (၂)လုံး စုစုပေါင်း(၅)လုံးတပ်ဆင်ထားရှိရမည်ဖြစ်ပါသည်၊ သို့မှသာအလုပ်သမားများအနေဖြင့် မတောက်တဆမှုဖြစ်သည်နှင့်တစ်ပြိုင်နက်အနီးဆုံးဆေးကြောနိုင်သည့်နေရာများသို့သွားရောက်နိုင်မည်ဖြစ်ပါသည်။

၆-၆။ လျှပ်ကူးကန်တွင်ဓါတ်ပြုခြင်းအဆင့်ကြောင့်ပတ်ဝန်းကျင်နှင့်အလုပ်သမားများအပေါ် ထိခိုက်နိုင်မှုများ

ကျောက်မှုန့်နှင့်အက်ဆစ်အရောအား လျှပ်စစ်ဖြတ်သန်းပြီးဓါတ်ပြုခဲ့ရာတွင်အပူထွက်ရှိမည်ဖြစ်ပြီးထိုအပူချိန် ကြောင့် ပင်အက်ဆစ်ငွေ့များ လည်းထွက်ရှိလာမည်ဖြစ်ပါသည်။ ထွက်ရှိလာသော အက်ဆစ်ငွေ့များသည် ဓါတ်ပြုခဲ့ကန်အားဖုံးအုပ်ထားခြင်းမရှိပါက ပတ်ဝန်းကျင် လေထုထဲသို့ ပျံ့နှံ့ရောက်ရှိသွားမည်ဖြစ်ပါသည်။

၆-၆-၁။ ပတ်ဝန်းကျင်အပေါ်ထိခိုက်နိုင်မှုများ

အက်ဆစ်ငွေ့ထွက်ရှိမှုသည် ပမာဏ နည်းပါးသော်လည်း နေ့စဥ်ရက်ဆက်ထွက်ရှိနေမည်ဖြစ်သဖြင့် ပတ်ဝန်းကျင်အားအနည်းနှင့်အများဆိုသလိုထိခိုက်စေမည်ဖြစ်ပါသည်။

### (က) စက်ရုံမှလုပ်ဆောင်ထားရှိချက်များ

စက်ရုံမှ အက်ဆစ်ငွေ့ထွက်ရှိမှုအားထိန်းချုပ်နိုင်ရေးအတွက် အက်ဆစ်ငွေ့များအား လေစုပ်ပန်ကာဖြင့် စုပ်ယူပြီး ပြင်ပသို့ခေါင်းတိုင်ဖြင့် ထုတ်လွှတ်ခြင်းမပြုမီရေဖြင့်ဖြန်းပက်ပြီးထွက်ရှိလာသောအက်ဆစ်ငွေ့များအားအက်ဆစ်အရည်ပျော့အဖြစ်ပြန်လည်ပြောင်းပြီးလုပ်ငန်းစဥ်တွင်ပြန်လည်အသုံးပြုကြောင်းတွေ့ရှိရပါသည်။ ၎င်းအပြင် လေစုပ်စက်ဖြင့် စုပ်ယူရာတွင်ကျန်ရှိမည့် အက်ဆစ်ငွေ့များသည် လျှပ်ကူးကန်မှ ထွက်ရှိလာနိုင်သေးသဖြင့် လျှပ်ကူးကန်များအား အဖုံးဖြင့်ဖုံးအုပ်ထားကြောင်းတွေ့ရှိရပါသည်။



လျှပ်ကူးကန်များအားအဖုံးများဖြင့်ဖုံးအုပ်ထားရှိပုံ

### (ခ) ထပ်မံထိန်းချုပ်လုပ်ဆောင်ရန်လိုအပ်မှုများ

တိုင်းတာချက်များအရ လက်ရှိဖုံးအုပ်ထားသောအဖုံးများသည် အက်ဆစ်ငွေ့များအား လုံခြုံစွာဖုံးအုပ်နိုင်ခြင်းမရှိခြင်းကြောင့် အက်ဆစ်ငွေ့များသည် လုပ်ငန်းခွင်အတွင်း ပျံ့နှံ့နေကြောင်းတွေ့ရှိရပါသည်။ တိုင်းတာသည့် ကိရိယာ အခက်အခဲကြောင့် လေထုတွင် အက်ဆစ်ငွေ့ ပါဝင်နှုန်းအား တိုင်းတာနိုင်ခြင်း မရှိသော်လည်း စိမ့်ထွက်မှုသည့် အချိန်ကြာမြင့်ပါက ပတ်ဝန်းကျင် လေထုအရည်အသွေးအား အနည်း နှင့် အများဆိုသလိုထိခိုက်စေမည်ဖြစ်ပါသည်။အက်ဆစ်ငွေ့ထွက်ရှိသောဓါတ်ပြုခွဲသည့်ကန်တိုင်းအားဖုံးအုပ်ထားသည့် အဖုံးများအား လုံခြုံစွာဖုံးအုပ်ထားရှိရမည်ဖြစ်ပါသည်။ လက်ရှိဖုံးအုပ်ထားသောအဖုံးများအား အခြားလုံခြုံမှုရှိသည့် အဖုံးများဖြင့်အစားထိုးဖုံးအုပ်ခြင်း(သို့မဟုတ်) လက်ရှိဖုံးအုပ်ထားသော အဖုံးများတွင်လေလုံမှုရှိစေရန် မော်တော်ကားတံခါးများတွင် အသုံးပြုသော အက်ဆစ်ဒဏ်ခံနိုင်သည့် ရော်ဘာ Seal များအား အဖုံး ပတ်ပတ်လည်တွင် တပ်ဆင် ပေးရမည်ဖြစ်ပါသည်။ ၎င်းအပြင် လျှပ်ကူးကန်များ မှ အက်ဆစ်ငွေ့များ လုံခြုံခြင်းရှိ/မရှိ စဥ်ဆက်မပြတ် တိုင်းတာ ထားရှိနေရမည်ဖြစ်ပါသည်။ ရေဖြန်းထားရှိ

သော်လည်း ခေါင်းတိုင်မှတစ်ဆင့်ထွက်ရှိလာမည့် အက်ဆစ်ငွေ့များသည် မြင်ပသို့ ရောက်ရှိသွားနိုင်မည့် ပမာဏ သည် သတ်မှတ်စံချိန် အောက်ရောက်ရှိခြင်းရှိ/မရှိ ခေါင်းတိုင်တွင် အက်ဆစ်ငွေ့တိုင်းတာသည့် ကိရိယာတပ်ဆင်ထားရှိရမည် ဖြစ်ပါသည်။



အက်ဆစ်ငွေ့ထိုစိမ့်မှုအား ဓါတ်ငွေ့စိမ့်ထွက်မှုတိုင်းတိရိယာဖြင့်တိုင်းတာနေပုံ



ဖုံးအုပ်ထားသောအဖုံးများကြွတက်နေကြောင်းတွေ့ရပုံ

### ၆-၆-၂။ လုပ်သားများအပေါ်ထိခိုက်နိုင်မှုများ

အလုပ်သမားများအပေါ်ထိခိုက်နိုင်မှုအနေဖြင့် လျှပ်တူးကန်တွင် ဖုံးအုပ်ထားသော အဖုံးများသည် မလုံ သဖြင့်အက်ဆစ်ငွေ့များစိမ့်ထွက်မည်ဖြစ်ပြီးစက်ရုံလုပ်သားများအနေဖြင့်အက်ဆစ်ငွေ့များအားရှူရှိုက်မှုရှိ ပါသည်။

(က) စက်ရုံမှ ထွက်ရှိလာသော အက်ဆစ်ငွေ့များအားထိန်းချုပ်ရန်လုပ်ဆောင်ထားရှိချက်များ

စက်ရုံမှ လျှပ်ကူးကန်များအားအဖုံးဖုံးအုပ်ထားရှိသည့်အပြင် အလုပ်သမားများအားလည်း နှာခေါင်းစည်းများအား ဝတ်ဆင်ထားရှိစေကြောင်းတွေ့ရှိရပါသည်။

(ခ) စက်ရုံမှထပ်မံလုပ်ဆောင်ရန်လိုအပ်မှုများ

အလုပ်သမားများအားအချိန်ကြာမြင့်စွာအလုပ်လုပ်ကိုင်စေခြင်းမရှိပဲအချိန်ပိုင်းခြားလုပ်ကိုင်စေခြင်းဖြင့်လည်းဓါတ်ငွေ့ရှူရှိုက်မှုအားလျော့နည်းသက်သာစေမည်ဖြစ်ပါသည်။ အသက်ရှူလမ်းကြောင်း ကာကွယ်မှုဆိုင်ရာ နှာခေါင်းပိတ်များဝတ်ဆင်ခြင်းအားဖြင့် အက်ဆစ်ငွေ့ရှိုက်မှုအား အတော်များများလျော့ချပေးနိုင်ပါသည်။ သို့သော်အကာအကွယ်ပစ္စည်းများဖြစ်သည့်နှာခေါင်းပိတ်ဝတ်ဆင်ခြင်းဖြင့်အက်ဆစ်ငွေ့ရှူရှိုက်မှုကာကွယ်ခြင်း အား အခြား ကာကွယ်မှုများ အရင်လုပ်ဆောင်ပြီးမှသာ လုပ်ဆောင် ရမည်ဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် အလုပ်သမားများအနေဖြင့်အကာအကွယ်ပစ္စည်းများအားအချိန်ကြာဝတ်ဆင်ရန်လိုလားခြင်းမရှိသောကြောင့်ဖြစ်သည်။အကာအကွယ်ပစ္စည်းများဝတ်ဆင်စေရာတွင်လည်းအလုပ်သမားများအားအက်ဆစ်ငွေ့ရှူရှိုက်ခြင်းအန္တရာယ်အားအသိပညာပေး၍မိမိကိုယ်တိုင်အသိစိတ်ဖြင့်ဝတ်ဆင်မှုရှိစေရန်အသိပညာပေးရန်လိုအပ်ပါသည်။ အသက်ရှူလမ်းကြောင်းဆိုင်ရာ ကာကွယ်မှု နှာခေါင်းပိတ်များသည်လည်းလုံလောက်စွာအန်အသက်လျော့ချပေးနိုင်သောအမျိုးအစားဖြစ်ရန်လည်းလိုအပ်ပါသည်။

၆-၇။ လျှပ်ကူးနည်းစဥ်ကြောင့်အခြားထိခိုက်မှုများ

၆-၇-၁။ စွန့်ပစ်ပစ္စည်းများထွက်ရှိမှု

အဆိုပြုစက်ရုံမှ စွန့်ပစ်ပစ္စည်းများထွက်ရှိမှုအနေဖြင့်အောက်ပါအတိုင်းတွေ့ရှိရပါသည်။

၆-၇-၁-၁။ အက်ဆစ်ဖြင့်ရောနေသော ကျောက်မှုန့်များထွက်ရှိခြင်း

လျှပ်ကူးနည်းစဥ်ဖြင့်ခနောက်စိမ်းသတ္တုများထုတ်ယူပြီးသည့်အခါအက်ဆစ်နှင့်ရောနှောနေသောကျောက်မှုန့်များထွက်ရှိလာမည်ဖြစ်ပါသည်။

(က) စက်ရုံမှလုပ်ဆောင်ထားရှိချက်များ

လျှပ်ကူးကန်အတွင်း ရှိ ခနောက်စိမ်း ထုတ်ယူပြီးသော ကျန်ရှိပျော်ရည်များ အား အက်စစ်ရည်ပြန်လည်စစ်ထုတ်ရန် ဖိအားဖြင့်အရည်စစ်စက်သို့ ပို့ဆောင်အရည်စစ်ပါသည်။အက်စစ်ရည်စစ်ထုတ်ပြီးကျန်သောကျောက်မှုန့်များအားရေဖြင့်ဆေးကြောပြီးရေပြန်စစ်ပါသည်။ထို့နောက်ခနောက်စိမ်းထုတ်ယူပြီးအက်စစ်ပါဝင်မှုအလွန်နည်းပါးသော ကျောက်မှုန့်များအား စွန့်ပစ်ကန်သို့ပို့ဆောင် စွန့်ပစ်ပါသည်။ စွန့်ပစ်ကန် မှ ကျောက်မှုန့်များအား ဘိလပ်မြေအုတ်ပြုလုပ်ရာတွင် ပြန်လည်အသုံးပြုပါသည်။

**(ခ) စက်ရုံမှထပ်မံလုပ်ဆောင်ရန်များ**

ကွန်ကရစ်အုတ်ပြုလုပ်ရာတွင် အသုံးပြုပါကလည်း ကွန်ကရစ်ဖြင့် ပတ်ဝန်းကျင်ထိခိုက်စေမည့် အချိုးအစား ဖြင့် ရောစပ်ခြင်းမပြုမိရန်အတွက် ကျောက်မှုန့် အများဆုံးရောစပ်နိုင်မည့် ပမာဏအား ခါတ်ခွဲစမ်းသပ်ရမည်ဖြစ်ပါသည်။ကျောက်မှုန့်တွင်ပါဝင်မည့်ဓါတ်ပစ္စည်းများသည်အသုံးပြုမည့်ကုန်ကြမ်း ကျောက်ရိုင်းပေါ်တွင်မူတည်သောကြောင့်ပုံမှန်ဓါတ်ခွဲစမ်းသပ်သွားရမည်ဖြစ်ပါသည်။အုတ်စက်ပမာဏ သည်လည်းထွက်ရှိလာသောကျောက်မှုန့်များအားလုံးအားကုန်စင်အောင်သုံးစွဲနိုင်သည့် စွမ်းရည်ရှိရမည် ဖြစ်ပါသည်။

**၆-၈။ လျှပ်စစ်ဓါတ်အားသုံးစွဲခြင်း**

လျှပ်ကူးနည်းပညာဖြင့်ခနောက်စိမ်းထုတ်လုပ်ရာတွင် လျှပ်စစ်မော်တာများလုပ်ငန်းစဉ် နေရာတိုင်းနီးပါး တွင်သုံးစွဲရခြင်းကြောင့် လျှပ်စစ်ဓါတ်အားသုံးစွဲမှုများပြားမည်ဖြစ်ပါသည်။

**၆-၈-၁။ စက်ရုံမှလျှပ်စစ်ဓါတ်အားချွေတာသုံးစွဲရန်လုပ်ဆောင်ထားရှိချက်များ**

စက်ရုံအနေဖြင့် မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း မှ ချမှတ်ထားသော စည်းမျဉ်းစည်းကမ်း များ အတိုင်းသုံးစွဲလျက်ရှိပါသည်။

**၆-၈-၂။ စက်ရုံအားလျှပ်စစ်ဓါတ်အားချွေတာသုံးစွဲခြင်းဆိုင်ရာလုပ်ဆောင်ရန်အကြံပြုချက်များ**

လျှပ်စစ်ဓါတ်အားထုတ်ယူခြင်းသည် သဘာဝသယံဇာတအရင်းအမြစ်များအား သုံးစွဲရသည့် အပြင်ဓါတ်ငွေ့များထုတ်လွှတ်မှုရှိခြင်းကြောင့်လျှပ်စစ်ဓါတ်အားချွေတာသုံးစွဲခြင်းသည်ပတ်ဝန်းကျင်ထိန်း သိမ်းရေးအားလုပ်ဆောင်ခြင်းဖြစ်သည့်အပြင်စက်ရုံလည်ပတ်ခြင်းအတွက်ကုန်ကျစရိတ်အားလည်းသက် သာစေသဖြင့်စက်ရုံအနေဖြင့်လျှပ်စစ်ဓါတ်အားချွေတာအသုံးပြုရန်အတွက်အောက်ဖော်ပြပါအချက်များ အား လိုက်နာလုပ်ဆောင်ရန်လိုအပ်ပါသည်။

(က) မွှေကန်များတွင် အသုံးပြုမည့် မော်တာများသည် လိုအပ်သည့် မြင်းကောင်ရေထက် ပိုမိုခြင်းမရှိ စေရန်၊

(ခ) အကယ်၍ မော်တာများသည် တပ်ဆင်ထားရှိသောမြင်းကောင်ရေ၏ ၄၅% အောက်သာ လည်ပတ်ရ သည်ဆိုပါက Delta Connection မှ Star Connection သို့ပြောင်းလဲတပ်ဆင်ရမည်ဖြစ်ခြင်းအားဖြင့် လျှပ်စစ်ဓါတ်အားသုံးစွဲမှုသက်သာစေပါသည်။

(ဂ) စွမ်းရည်ကျဆင်းသည့်မော်တာများနေရာတွင် စွမ်းရည်ကောင်းမွန်သည့် မော်တာများပြောင်းလဲတပ် ဆင်ပေးရန်၊

(ဃ) မော်တာများအားလုံး ဗို့အားနှင့် အင်ပီယာများတူညီနေရမည်ဖြစ်ပါသည်၊

(င) ပုံမှန်သန့်ရှင်းရေးနှင့် ချောဆီများထည့်သွင်းပေးရန်၊

(စ) ၃ကြိမ်ပြန်လည်ကွိုင်ပတ်ပြီးသော မော်တာများအားလဲလှယ်သုံးစွဲသွားရန် (မော်တာအသစ်သည် မော်တာအဟောင်းထက် ၃% မှ ၅%ထက်လျှပ်စစ်ဓါတ်အားသုံးစွဲမှုသက်သာပါသည်၊)

(ဆ) ထရန်စဖော်မာမှမော်တာသို့ Capacitor များကြားခံတပ်ဆင်ပေးရန် တို့ဖြစ်ပါသည်။

အခြားလျှပ်စစ်ဓါတ်အားချွေတာရေးအနေဖြင့်အောက်ဖော်ပြပါအချက်များအားလုပ်ဆောင်သင့်ပါသည်၊

(က) လျှပ်စစ်မီတာနှင့်ရေမီတာများတပ်ဆင်ထားရှိရန်၊

(ခ) အသုံးမပြုသောစက်၊မီးနှင့်အခြားအသုံးအဆောင်များပိတ်ထားရန်၊

(ဂ) LED မီးလုံးများအသုံးပြုရန်၊

(ဃ) ရေပိုက်လိုင်းများ စွမ်းအင်ဆုံးရှုံးမှုမရှိစေရန် ကျွမ်းကျင်သူဖြင့် သွယ်ယူတပ်ဆင်ရန်၊

(င) လျှပ်စစ်ဓါတ်ကြိုးများအား လျှပ်စစ်ဆုံးရှုံးမှုနည်းပါးစေရန်နှင့် အန္တရာယ်ကင်းရှင်းစေရန်ကျွမ်းကျင်သူများဖြင့်သာတပ်ဆင်ရန် တို့ဖြစ်ပါသည်။

## ၇။ လုပ်ငန်းခွင်လုံခြုံရေးနှင့်ကျန်းမာရေးစီမံချက်

စက်ရုံလုပ်သားများအပေါ် ထိခိုက်မှုများအနေဖြင့် အသံဆူညံမှု၊ ကျောက်စများလွင့်စင်ထိမှန်နိုင်မှု၊ အက်ဆစ်ရည် (သို့မဟုတ်) အက်ဆစ်ငွေ့ဖြင့် တိုက်ရိုက်ထိတွေ့မှု၊ ဖုန်မှုန့်များရှူရှိုက်ရမှု၊ တုန်ခါမှု၊ အပူချိန်မြင့်မားခြင်း၊ လုပ်ငန်းခွင်အလင်းရောင်နည်းပါးခြင်း အစရှိသည့် ထိခိုက်မှုများနှင့်တွေ့ကြုံရနိုင်ပါသည်။အသံဆူညံမှု၊ ကျောက်စများလွင့်စင်ထိမှန်နိုင်မှုအက်ဆစ်ရည်(သို့မဟုတ်)အက်ဆစ်ငွေ့ဖြင့်တိုက်ရိုက်ထိတွေ့မှု၊ ဖုန်မှုန့်များရှူရှိုက်ရမှုအစရှိသည့်ထိခိုက်မှုများနှင့်ကာကွယ်ဖြေရှင်းရန်နည်းလမ်းများအားတင်ပြဆွေးနွေးထားရှိပြီးဖြစ်ပါသည်။ယခုဆက်လက်ပြီးလုပ်ငန်းခွင်အတွင်းတုန်ခါမှု၊လုပ်ငန်းခွင်အပူချိန်၊လုပ်ငန်းခွင်အလင်းရောင် အစရှိသည်များနှင့်ပက်သက်ပြီးဆက်လက်ဆွေးနွေးတင်ပြသွားမည်ဖြစ်ပါသည်။

### ၇-၁။ လုပ်ငန်းခွင်အတွင်းတုန်ခါမှု

ကျောက်ကြိတ်ခွဲစက်နှင့် ကျောက်ကြိတ်စက်များသည် တုန်ခါမှု ရှိသည်ဖြစ်၍ အဆိုပါတုန်ခါမှုသည် အနီးအနား တွင် အလုပ် လုပ်ကိုင်နေသည့် စက်ရုံ အလုပ်သမားများအပေါ် ထိခိုက်ခြင်း ရှိ/မရှိ တိုင်းတာခဲ့ပါသည်။



(ပထမအဆင့်ကျောက်ခွဲစက်အပေါ်)



(ဒုတိယအဆင့်ကျောက်ခွဲစက်အောက်)

တုန်ခါမှုအားတိုင်းတာနေပုံ

တိုင်းတာမှုရလာဒ်များအရစက်ရုံအလုပ်သမားများအနီးတွင်တုန်ခါမှုမှာလုပ်ငန်းခွင်တုန်ခါမှုသတ်မှတ်စံနှုန်း ထက် လျော့နည်းနေကြောင်းတွေ့ရှိရပါသည်၊

**(က) တုန်ခါမှုလျော့ချရန်စက်ရုံမှလုပ်ဆောင်ထားရှိချက်များ**

စက်ရုံမှ ကျောက်ခွဲစက်အနီးတွင်အလုပ်လုပ်ကိုင်နေသည့် အလုပ်သမားများတုန်ခါမှုလျော့နည်းစေရန် စက်အပေါ်ဘက်တွင်လုပ်ကိုင်မည့် အလုပ်သမားများ အောက်ခြေတွင် ရော်ဘာပြားများ ခင်းထားပေးကြောင်းတွေ့ ရှိရပါသည်။ ပထမအဆင့်ကျောက်ခွဲစက်အားလည်းကွန်ကရစ်အုတ်ကန်အတွင်းထည့်သွင်းထားရှိခြင်း၊ ဒုတိယအဆင့်ကျောက်ခွဲစက်အားလည်းသံစင်ဖြင့်အမြင့်တွင်တင်ထားရှိခြင်းကြောင့် တုန်ခါမှုအား လျော့ကျစေပါသည်၊ ကျောက်ကြိတ်စက်အားလည်း ကွန်ကရစ်အတိုင်များဖြင့် ပြုလုပ်ထားခြင်းဖြင့် တုန်ခါမှုအားလျော့ချထားကြောင်းတွေ့ရှိရပါသည်၊

**(ခ) တုန်ခါမှုအားထိန်းချုပ်ရန်ထပ်မံလုပ်ဆောင်ရန်လိုအပ်မှုများ**

တုန်ခါမှုအားထိန်းချုပ်ရန်ထပ်မံလုပ်ဆောင်ရန်မလိုအပ်ပါ။

## ၇-၂။ အက်ဆစ်နှင့်တိုက်ရိုက်ထိတွေ့နိုင်မှုများ

အက်ဆစ်ပုံးအတွင်းမှ အက်ဆစ်များအား အသွင်းအထုတ်ပြုလုပ်သည့်အခါတွင်ဖြစ်စေ၊ အက်ဆစ်ကန် မှ ပိုက်ဆက်များ မတော်တဆ ပြုတ်ထွက်သည့်အခါတွင်ဖြစ်စေ၊ လျှပ်ကူးကန်မှ ခနောက်စိမ်းသတ္တုကပ်ညှိနေသော Electrodes များထုတ်ယူသည့်အခါတွင်ဖြစ်စေ၊ ဖိအားသုံးညှစ်စက်ဖြင့် အက်ဆစ် နှင့် ကျောက်မှုန့်ခွဲထုတ်သည့်နေရာတွင်ဖြစ်စေ အက်ဆစ်အရည်ဖြင့်တိုက်ရိုက်ထိတွေ့မှုရှိနိုင်ပါသည်။

### (က) စက်ရုံမှလုပ်ဆောင်ထားရှိချက်များ

စက်ရုံမှ အလုပ်သမားများအက်ဆစ်နှင့်ထိတွေ့ပါက ရေဖြင့်ဆေးကြောနိုင်ရန် ရေဆေးကြောရာနေရာများ တပ်ဆင်ထားရှိပါသည်။

### (ခ) စက်ရုံမှ ထပ်မံလုပ်ဆောင်ရန်လိုအပ်မှုများ

အလုပ်သမားများအား အက်ဆစ်အားတိုက်ရိုက်ကိုင်တွယ်မိသည်နှင့်တစ်ပြိုင်နက်အနီးဆုံး နေရာများသို့ အလျှင်အမြန်သွားရောက်ပြီး ရေဖြင့် အက်ဆစ် ထိမိသည့်နေရာများအား ဆေးကြောနိုင်စေရေးအတွက် မွှေကန်၊ လျှပ်ကူးကန်၊ ကျောက်မှုန့်နှင့် အက်ဆစ်အရည်ခွဲထုတ်သည့်ညှစ်စက်အစရှိသောနေရာအသီးသီးတွင် လက်ဆေးကန်အားတပ်ဆင်ထားရှိပေးရမည်ဖြစ်ပါသည်။၎င်းအပြင်မျက်လုံးအတွင်းသို့မတော်တဆဝင်ရောက်ခြင်းအား အလွယ်တကူဆေးကြောနိုင်ရေးအတွက် မျက်လုံးအတွင်း ဝင်ရောက်ခြင်း အား ဆေးကြောနိုင်သည့် မျက်လုံးဆေး ကိရိယာများလည်း တပ်ဆင်ထားရမည်ဖြစ်ပါသည်။ အနိမ့်ဆုံး လိုအပ်ချက်အနေဖြင့် စက်ရုံ ၏အောက်ဘက်အရှေ့ဘက်စွန်း နှင့် အနောက်ဘက်စွန်း၊ အပေါ်ထပ် အရှေ့ဘက်စွန်း နှင့် အနောက်ဘက်စွန်းတို့တွင် တပ်ဆင်ထားရှိရမည်ဖြစ်ပါသည်။ အလုပ်သမားများအားလည်း အက်ဆစ်နှင့် တိုက်ရိုက်ထိတွေ့ ခြင်းကြောင့်ဖြစ်ပေါ်နိုင်သည့် ထိခိုက်မှုများအားအသိပညာပေးထားရှိရမည်ဖြစ်ပါသည်။

## ၇-၃။ လုပ်ငန်းခွင်အပူချိန်

လုပ်ငန်းခွင်အပူချိန်မြင့်မားခြင်းသည်လည်း လုပ်သားများ ချွေးထွက်များပြားခြင်း၊ အလုပ်လုပ်ကိုင်ရာတွင် စိတ်ဖိစီးမှုများပြားခြင်း၊ မောပန်းလွယ်ခြင်းအစရှိသည့်ထိခိုက်မှုများတွေ့ကြုံရနိုင်သဖြင့် လုပ်ငန်းခွင် အပူချိန်အားတိုင်းတာခဲ့ပါသည်။ တိုင်းတာချက်များအရ စက်ရုံ အပေါ်ဆုံးထပ် (ဖိအားသုံးညှစ်စက်) များ တပ်ဆင်အသုံးပြုသောအထပ်တွင် လုပ်ငန်းခွင်အပူချိန်သည် သတ်မှတ် အပူချိန်ထက်မြင့်မားနေသဖြင့် လျှော့နည်းသက်သာစေရန်လုပ်ဆောင်ပေးရန်လိုအပ်ပါသည်။

**(က) စက်ရုံမှလုပ်ဆောင်ထားရှိချက်များ**

စက်ရုံမှ အပူချိန်အားလျှော့ချရန်အတွက် စက်ရုံအပေါ်ဆုံးထပ်တွင်ပန်ကာတပ်ဆင်ပေးထားကြောင်းတွေ့ ရှိရပါသည်။

**(ခ) အပူချိန်လျှော့ချရန်ထပ်မံလုပ်ဆောင်ထားရှိရန်လိုအပ်ချက်များ**

စက်ရုံသည်လေဝင်လေထွက်ကောင်းမွန်ပြီး အပူချိန်လျှော့ချနိုင်ရန်အတွက် ပန်ကာတပ်ဆင်ထားပေးခြင်းကြောင့်လုပ်ငန်းခွင်အပူချိန်လျှော့ကျစေရန်ထပ်မံလုပ်ဆောင်ရန်မလိုအပ်ပဲအလုပ်သမားများအားအပူချိန်မြင့်မားသောအချိန်ဖြစ်သည့်နေ့လည်အချိန်များတွင်အလုပ်လုပ်ကိုင်ခြင်းမပြုစေပဲမဖြစ်မနေလုပ်ကိုင်ရမည်ဆိုပါကလည်း ၄ နာရီခြားစီ အလှည့်ကျစနစ်ဖြင့်လုပ်ကိုင်စေရန်လိုအပ်ပါသည်။

**၇-၄။ လုပ်ငန်းခွင်အလင်းရောင်**

လုပ်ငန်းခွင်အလင်းရောင်ရရှိမှု နည်းခြင်းသည်လည်း ရေရှည် အလုပ်လုပ်ကိုင်ရမည့် အလုပ်သမားများ အမြင်အာရုံထိခိုက်ခြင်း၊ မှားယွင်း၍လုပ်ကိုင်နိုင်ခြင်းကြောင့်မတော်တဆထိခိုက်မှုဖြစ်နိုင်ခြင်းအစရှိသည့် ထိခိုက်မှုများအားကြုံတွေ့ရနိုင်ပါသည်။ အဆိုပြုစက်ရုံ၏ လုပ်ငန်းခွင် အလင်းရောင် ရရှိခြင်းအား တိုင်းတာခဲ့ရာ စက်ရုံ တစ်ခုလုံး ၏ စက်ပိုင်းဆိုင်ရာများ ထိန်းချုပ်သည့် စက်ထိန်းချုပ်ပင်မခန်း (Control Room) မှ အပကျန်နေရာများတွင် အလင်းရောင်ရရှိမှုမှာ သတ်မှတ်စံနှုန်း နှင့် အထက်ရှိကြောင်းတွေ့ရှိရပါသည်။ အဆိုပြုစက်ရုံသည် နေ့ဘက်တွင် အဓိကလုပ်ကိုင်မည် ဆိုသဖြင့် နေ့ဘက်အလင်းရောင်ရရှိမှု အားအဓိကထား တိုင်းတာခဲ့ခြင်းဖြစ်ပါသည်။



**လုပ်ငန်းခွင်အလင်းရောင်ရရှိမှုအားတိုင်းတာနေပုံ**

**(ဂ) စက်ရုံမှ ဖြေရှင်းဆောင်ရွက်ထားရှိမှုများ**

စက်ရုံမှ အလင်းရောင်နည်းပါးသည့် စက်ထိန်းချုပ်ပင်မခန်းတွင် မီးလုံးများ တပ်ဆင်ထားကြောင်းတွေ့ရှိရပါသည်။

**(ဓ) စက်ရုံမှထပ်မံလုပ်ဆောင်ရန်လိုအပ်ချက်များ**

စက်ရုံမှ လျှပ်စစ်ဓါတ်အားသုံးစွဲမှုနည်းပါးသော LED မီးလုံးများအားပင်မထိန်းချုပ်ခန်းတွင် ထပ်မံတပ်ဆင်ပေးရန်လိုအပ်ပါသည်။

**၇-၅။ အလုပ်သမားများအားသင်တန်းပေးရန်လိုအပ်မှုများ**

စက်ရုံလုပ်သားများအား အကာအကွယ်ပစ္စည်းများ ပြုလုပ်ပေးရုံ နှင့် လုံလောက်မှု မရှိပဲ အကာအကွယ်ပစ္စည်းများအားထိရောက်စွာအသုံးပြုတတ်စေရန်နှင့်ဖြစ်ပေါ်ရရှိနိုင်သည့်ထိခိုက်မှုများအားကွဲကွဲပြားပြားသိရှိပြီး လိုလား စွာဝတ်ဆင်လိုစိတ်ရှိစေရန် သင်တန်းများပေးရမည်ဖြစ်ပါသည်။၎င်းအပြင်စက်ရုံအတွင်းဖြစ်ပေါ်နိုင်သည့်မတော်တစ်ဆထိခိုက်နိုင်မှုများနှင့်ပုံမှန်မဟုတ်သည့်အရေးပေါ်ဖြစ်စဥ်များဘေးအန္တရာယ်များ အားကာကွယ်တားဆီးရန်သင်တန်းပေးရမည်ဖြစ်ပါသည်။အဓိကအားဖြင့်အောက်ဖော်ပြပါသင်တန်းများအား လိုအပ်သလို သင်တန်းပေးရမည်ဖြစ်ပါသည်။

| စဥ် | သင်တန်းအမျိုးအစား | သင်တန်းပေးရမည့် အကြိမ် | ဦးဆောင်ဆောင်ရွက်ရမည့် ဌာနအဖွဲ့အစည်း |
|---|---|---|---|
| ၁။ | အကာအကွယ်ပစ္စည်းများ (လက်အိတ်၊ နှာခေါင်းစိတ်၊ ဦးထုပ်) ဝတ်ဆင်ရန်လိုအပ်မှုသင်တန်းများ | ၁နှစ်လျှင်တစ်ကြိမ် (သို့) အလုပ်သမားအသစ်ခန့်ထားတိုင်းလိုအပ်သလို | အလုပ်သမားညွှန်ကြားမှုဦးစီးဌာန |
| ၂။ | အက်ဆစ်ငွေ့ကြောင့်ဖြစ်ပေါ်နိုင်သော ကျန်းမာရေးထိခိုက်မှုများ/ အမှုန်အမွှားရှုရှိုက်ခြင်းကြောင့်ထိခိုက်နိုင်သည့်ကျန်းမာရေးထိခိုက်မှုများ/ အသံဆူညံခြင်းကြောင့် ဖြစ်ပေါ်နိုင်သောကျန်းမာရေး ထိခိုက်မှုများ | ၁နှစ်လျှင်တစ်ကြိမ် (သို့) အလုပ်သမားအသစ်ခန့်ထားတိုင်းလိုအပ်သလို | ပြည်သူ့ကျန်းမာရေးဦးစီးဌာန |

| | | | |
|---|---|---|---|
| ၃။ | အက်ဆစ်နှင့်တိုက်ရိုက်ထိတွေ့မှုကြောင့် ဖြစ်ပေါ်နိုင်သော ထိခိုက်မှုများ | ၁နှစ်လျှင်တစ်ကြိမ် (သို့) အလုပ်သမားအသစ်ခန့်ထားတိုင်းလိုအပ်သလို | ပြည်သူ့ကျန်းမာရေးဦးစီးဌာန |
| ၄။ | လျှပ်စစ်အန္တရာယ် | ၁နှစ်လျှင်တစ်ကြိမ် (သို့) အလုပ်သမားအသစ်ခန့်ထားတိုင်းလိုအပ်သလို | မြို့နယ်လျှပ်စစ်ဦးစီးဌာန |
| ၅။ | မီးဘေးကာကွယ်မှု | ၁နှစ်လျှင်တစ်ကြိမ် (သို့) အလုပ်သမားအသစ်ခန့်ထားတိုင်းလိုအပ်သလို | မီးသတ်ဦးစီးဌာန |

**၈။ အရေးပေါ်အခြေအနေများဖြစ်ပေါ်လာပါကဆောင်ရွက်ရန်အစီအစဉ်များ**

အရေးပေါ် အခြေအနေဆိုသည်မှာ သာမန် လည်ပတ်စဉ် အတွင်းဖြစ်ပေါ်သော အခြေအနေမျိုး မဟုတ်ပဲ မမျှော်လင့်ထားသော အခြေအနေမျိုးတွင် ဖြစ်ပေါ်နိုင်သည့် ဖြစ်စဉ်များအား ဆိုလိုခြင်း ဖြစ်ပါသည်။ စက်ရုံအနေဖြင့် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေး စီမံချက်များအားအောက် ဖော်ပြပါအတိုင်း လုပ်ဆောင်ထားရှိသင့်ပါသည်။

**၈-၁။ မီးသတ်ဆေးဘူးများ**

$CO_2$ နှင့် DCP အစရှိသောမီးသတ်ဆေးဘူးများအားစက်ရုံအတွင်းအရေးပါသောနေရာများတွင် တပ်ဆင်ထားရှိရမည်ဖြစ်ပါသည်။ လျှပ်စစ်ရှော့ဖြစ်နိုင်သောနေရာများတွင်ကာဗွန်ဒိုင်အောက်ဆိုဒ်မီးသတ် ဘူးများအားအသုံးပြုရမည်ဖြစ်ပါသည်။ထို့အပြင်အလုပ်သမားတန်းလျားအနီးတွင်လည်းတပ်ဆင်ထားရ မည် ဖြစ်ပါသည်။ မီးသတ်ဆေးဘူးများအားလည်း ပြန်လည် အစားထိုးတပ်ဆင်ရန် လိုအပ်ခြင်း ရှိ/မရှိ ပုံမှန်စစ်ဆေးသွားရမည်ဖြစ်ပါသည်။

**၈-၂။ မီးသတ်ပစ္စည်းများ**

မီးသတ်ပစ္စည်းများအနေဖြင့် အောက်ဖော်ပြပါ ဇယားအတိုင်းစုဆောင်းထားရှိရမည်ဖြစ်ပါသည်။

| No. | Safety Equipments |
|---|---|
| 1. | Gas Mask |
| 2. | Compressed air breathing apparatus |
| 3. | PVC hand gloves |
| 4. | Electrical hand gloves |
| 5. | PVC apron |
| 6. | Dust respirator |
| 7. | Face shield of different colour |
| 8. | Goggles of different types |
| 9. | Safety belt |
| 10. | Safety helmet |

### ၈-၃။ မီးဘေးတာကွယ်တားဆီးလုပ်ဆောင်ထားရှိရန်များ

မီးဘေးအန္တရာယ်ကာကွယ်တားဆီးခြင်းအနေဖြင့်အောက်ဖော်ပြပါအချက်များအားလုပ်ဆောင်ထားရှိရမည်ဖြစ်ပါသည်။

(က) မီးလောင်လွယ်သောအရာများအား ခွဲခြားထားရှိရန်၊

(ခ) အလုပ်သမားများအားမီးသတ်သင်တန်းပေးထားရန်၊

(ဂ) မီးသတ်ဆေးဘူးများနေရာတွင်ရှိ/မရှိနှင့်လဲလှယ်ရန်လိုအပ်မှုရှိ/မရှိပုံမှန်စစ်ဆေးရန်၊

(ဃ) မီးလောင်လျှင်လူစုဝေးမည့်နေရာအားပုံမှန်ရှင်းလင်းထားရှိရန်၊

(င) စုဝေးမည့်နေရာအားအလုပ်သမားတိုင်းသိရှိစေရန်လုပ်ဆောင်ထားရန်၊

(စ) မီးသတ်တာဝန်ခံပုဂ္ဂိုလ်သတ်မှတ်ထားရှိရန်၊

(ဆ) အရေးပေါ်ဆက်သွယ်ရန်ဖုန်းနံပါတ်များစုဆောင်းထားရှိရန် တို့ဖြစ်ပါသည်။

## ၈-၄။ မီးလောင်စဥ်အတွင်းလုပ်ဆောင်ရန်များ

(က) အလုပ်သမားများအားလုံးအားအသိပေးရန်၊

(ခ) အမှန်တစ်ကယ်ငြိမ်းသတ်နိုင်မည့်မီးသတ်ပစ္စည်းအားသာယူဆောင်ငြိမ်းသတ်ရန်၊

(ဂ) မီးဘေးအန္တရာယ်ရှိနိုင်ပါက စုဝေးသည့်နေရာသို့သွားရောက်ရန် တို့ဖြစ်ပါသည်။

## ၈-၅။ အဆိုပြုမီးသတ်အဖွဲ့အစည်း

စက်ရုံတွင်းမီးသတ်အဖွဲ့အစည်းအနေဖြင့်အောက်ဖော်ပြပါအတိုင်းအဆိုပြုအပ်ပါသည်။




အဆိုပြုစက်ရုံတွင်းမီးသတ်အဖွဲ့အစည်း

အဆိုပါမီးသတ်အဖွဲ့အစည်းအနေဖြင့် ပြင်ပဒေသခံမီးသတ်ဌာနများနှင့်ချိတ်ဆက်ပြီးမီးငြိမ်းသတ်ခြင်းအားပူးပေါင်းကူညီပါဝင်လုပ်ဆောင်သွားရမည်ဖြစ်ပါသည်။

## ၈-၆။ မီးသတ်အဖွဲ့ဝင်များ၏တာဝန်ဝတ္တရားများ

မီးသတ်အဖွဲ့ဝင်တိုင်း၏တာဝန်ဝတ္တရားများအားအောက်ပါအတိုင်းဖော်ပြအပ်ပါသည်။

| မီးသတ်အဖွဲ့ဝင်များ | ရာထူး | တာဝန်များ |
|---|---|---|
| စက်ရုံမှူး | စီစဉ်ညွှန်ကြားသူ | • စက်များအားလုံးရပ်ဆိုင်းရန်၊<br>• ဒေသခံမီးသတ်အဖွဲ့အစည်းမရောက်ရှိခင်အချိန်ထိ စီစဉ်ညွှန်ကြားရန်၊<br>• ဒေသခံမီးသတ်တပ်ဖွဲ့အားဆက်သွယ်ရန်၊<br>• အရေးပေါ်စုရပ်တွင်စုစည်းစေရန်၊ |
| အလုပ်သမားကြီးကြပ်ရေးမှူး | မီးသတ်ခေါင်းဆောင် | • မီးနှင့်အခြားအရာများလုံခြုံမှုရှိစေရေးလုပ်ဆောင်ရန်၊<br>• ဒဏ်ရာရသူများအား ပြုစုစေရန်၊<br>• အလုပ်သမားစာရင်းပြုစုရန်၊<br>• ဒေသခံမီးသတ်အဖွဲ့နှင့်ပူးပေါင်းငြိမ်းသတ်ရန်၊ |
| လုပ်သားများနှင့်လုံခြုံရေးတာဝန်ခံများ | မီးငြိမ်းသတ်သူများ | • ရရှိနိုင်သည့် မီးသတ်ပစ္စည်းများဖြင့် မီးအားစနစ်တကျငြိမ်းသတ်ရန်၊<br>• လူစုလူဝေးအားရှင်းလင်းရန်၊<br>• ဂိတ်လုံခြုံရေးဆောင်ရွက်ရန်၊ |

## ၉။ ပတ်ဝန်းကျင်ထိခိုက်မှုစောင့်ကြည့်လေ့လာရေးအစီအစဥ်များ

စောင့်ကြည့်လေ့လာရေးအစီအစဥ်များသည် စက်ရုံကြောင့် ထိခိုက်မှုများအားလျှော့နည်းသက်သာအောင် လုပ်ဆောင်ပြီးသည့်နောက်ပိုင်းထိရောက်မှုရှိ/မရှိနှင့်ကြွင်းကျန်သက်ရောက်မှုများသည်သတ်မှတ်စံချိန်စံညွှန်းများအောက်ရှိ/မရှိအား စောင့်ကြည့်လေ့လာသွားနိုင်ရေးအတွက်ရေးဆွဲခြင်းဖြစ်ပါသည်။

### ၉-၁။ အဆိုပြုစောင့်ကြည့်လေ့လာရေးအစီအစဥ်များ

စောင့်ကြည့် လေ့လာသွားရမည့်သက်ရောက်မှုများ၊ စောင့်ကြည့်လေ့လာသွားရမည့်နေရာ၊ စောင့်ကြည့်လေ့လာသွားရမည့် အကြိမ်နှင့် လုပ်ဆောင်သွားရမည့်သူ အစရှိသူတို့အား အောက်ဖော်ပြပါ ဇယားတွင် ဖော်ပြအပ်ပါသည်။

**အဆိုပြုစောင့်ကြည့်လေ့လာရေးအစီအစဉ်များ**

| | | | | | |
|---|---|---|---|---|---|
| အမှုန်အမွှား လွင့်စင်မှု | $PM_{10}$ နှင့် $PM_{2.5}$ | လစဉ် | ကျောက်ခွဲစက်များအနီး | ၃၀၀၀၀ ကျပ် | Golden Flagmast Co., Ltd. |
| အသံ | dB (A) | လစဉ် | ကျောက်ခွဲစက်နှင့်ကျောက် ကြိတ်စက်များအနီး | ၂၀၀၀၀ ကျပ် | Golden Flagmast Co., Ltd. |
| အက်ဆစ်အနံ့ | အနံ့ခံကြည့်ခြင်း | နေ့စဉ် | | - | Golden Flagmast Co., Ltd. |
| အက်ဆစ်ငွေ့ ထွက်ရှိမှု | | | ကျောက်မှုန့်နှင့်အက်ဆစ်ရောစပ်သည့် နေရာအနီး၊ လျှပ်ကူးကန်များအနီး | | |
| စွန့်ပစ်ကျောက် မှုန့်များ | pH, အာဆင်းနစ်၊ ခဲ၊ ဆာလဖိတ် | ဝယ်ယူသည့် သတ္တုရိုင်းပြောင်းလဲသည့် အခါတိုင်း | ဘိလပ်မြေအုတ်မပြုလုပ်မီ | ၂၀၀၀၀ ကျပ် | Golden Flagmast Co., Ltd. |
| မြေဆီလွှာ ညစ်ညမ်းမှု | ခဲဓါတ်၊ အာဆင်းနစ်၊ ဆာလဖိတ်၊ သံဓါတ် | ၆လတစ်ကြိမ် | စက်ရုံနှင့်လယ်ကွက်ထိစပ်နေသည့် နေရာအနီး | ၁၅၀၀၀ ကျပ် | Golden Flagmast Co., Ltd. |
| မြေအောက် ရေညစ် ညမ်းမှု | ခဲဓါတ်၊ အာဆင်းနစ်၊ ဆာလဖိတ်၊ သံဓါတ် | ၆ လတစ်ကြိမ် | အဝီစိတွင်းရေ | ၁၅၀၀၀ ကျပ် | Golden Flagmast Co., |

| | | | | | |
|---|---|---|---|---|---|
| | | | | | Ltd. |
| [redacted] | | | | | |
| အမှိုက်သရိုက် စွန့်ပစ်မှု | စက်ရုံနှင့်အလုပ်သမား တန်းလျားများမှ အမှိုက်သရိုက်ထွက်ရှိမှု | နေ့စဉ် | နေ့စဉ်အမှိုက်ထွက်ရှိမှု/ စွန့်ပစ်မှုနှင့် ပြန်လည် အသုံးပြုမှု မှတ်တမ်းစာအုပ် | - | Golden Flagmast Co., Ltd. |
| လျှပ်စစ်ဓါတ်အား သုံးစွဲမှု | လျှပ်စစ်ဓါတ်အားသုံးစွဲ မှု | နေ့စဉ် | လျှပ်စစ်မီတာ | - | Golden Flagmast Co., Ltd. |
| ရေသုံးစွဲမှု | အဝီစိတွင်းမှရေထုတ်ယူ သုံးစွဲမှု | နေ့စဉ် | ရေမီတာ | - | Golden Flagmast Co., Ltd. |
| သစ်ပင်စိုက်ပျိုးမှု | စိုက်ပျိုးသည့်အပင် အရေအတွက် နှင့်ရှင်သန်ကြီးထွားမှု အခြေအနေ | အပတ်စဉ် (၃)နှစ်အထိ | အဆိုပြုသစ်ပင်စိုက်ပျိုးထားရှိ သည့် နေရာများ | - | Golden Flagmast Co., Ltd. |

မှတ်ချက်။ ၊ အတယ်၍ တိုင်းတာမှုရလာဒ်များသည် ၃နှစ် ဆက်တိုက်တည်ငြိမ်မှုရှိပြီး တိုင်းတာမှုရလာဒ်များသည် သတ်မှတ်စံနှုန်းများထက် (၇၅) ရာခိုင်နှုန်းထက် ပိုမို လျော့နည်းနေမည်ဆိုပါက တိုင်းတာရမည့်အကြိမ်အား တစ်လ တစ်ကြိမ်အစား ၃ လတစ်ကြိမ် ထို့မှတစ်ဆင့် ဆက်လက်တည်ငြိမ် နေမည် ဆိုပါက ၆ လတစ်ကြိမ် စသည်ဖြင့် အဆင့်ဆင့်ပြောင်းလဲနိုင်ပါသည်။

## ၉-၂။ ပတ်ဝန်းကျင်စောင့်ကြည့်လေ့လာရေးအစီအစဉ်အတွက်အဆိုပြုစံနှုန်းများ

ပတ်ဝန်းကျင်စောင့်ကြည့်လေ့လာရေးအတွက် စောင့်ကြည့်ရမည့် အရာများသည်သတ်မှတ် စံနှုန်းအောက် ရှိ/မရှိ တိုင်းတာစောင့်ကြည့်နိုင်ရေးအတွက် အောက်ဖော်ပြပါ စံနှုန်းများနှင့် တိုင်းတာကြည့်ရှုနိုင်ရန်အဆိုပြုတင်ပြထားပါသည်။

(က) ရေအရည်အသွေးစံနှုန်းများ

| ပါဝင်ပစ္စည်းများ | ယူနစ် | WHO စံနှုန်း | မြန်မာစံနှုန်း |
|---|---|---|---|
| pH | pH | 6-9 | 6-9 |
| $BOD_5$ | mg/l | 50 | 50 |
| COD | mg/l | 250 | 250 |
| Oil and grease | mg/l | 10 | 10 |
| TSS | mg/l | 50 | - |
| Metals | | | |
| - Heavy metals, total | mg/l | 10 | - |
| - Arsenic | mg/l | 0.1 | |
| - Cadmium | mg/l | 0.1 | |
| - Chromium | mg/l | 0.5 | |
| - Copper | mg/l | 0.5 | |
| - Iron | mg/l | 3.5 | |
| - Lead | mg/l | 0.1 | |
| - Mercury | mg/l | 0.01 | |
| - Nickel | mg/l | 0.5 | |
| - Selenium | mg/l | 0.1 | |
| - Silver | mg/l | 0.5 | |
| - Zinc | mg/l | 2.0 | |
| Ammonia | mg/l | 10 | - |
| Fluoride | mg/l | 20 | - |
| Chlorine, total residual | mg/l | 0.2 | - |
| Phenols | mg/l | 0.5 | - |
| Phosphorus | mg/l | 2.0 | - |
| Sulfide | mg/l | 1.0 | - |
| Temperature increase | °C | Max: 3°C above receiving water | Max: 3°C above receiving water |

**Source: World Bank, 1998 and Draft Myanmar Environmental Guidelines**

(ခ) လေအရည်အသွေးစံနှုန်းများ

| Parameters | Averaging Period | Guideline value (μg/m³) |
|---|---|---|
| $PM_{10}$ | 1-year | 70 (interim target-1)<br>50 (interim target-2)<br>30 (interim target-3)<br>20 (guideline) |
| | 24-hour | 150 (interim target-1)<br>100 (interim target-2)<br>75 (interim target-3)<br>50 (guideline) |
| $PM_{2.5}$ | 1-year | 35 (interim target-1)<br>25 (interim target-2)<br>15 (interim target-3)<br>10 (guideline) |
| | 24-hour | 75 (interim target-1)<br>50 (interim target-2)<br>37.5 (interim target-3)<br>25 (guideline) |

**Source: IFC, World Bank (2007)**

(ဂ) အသံတိုင်းတာခြင်းဆိုင်ရာစံနှုန်းများ

| Country/Region | Acceptable Noise Level dB(A) | | |
|---|---|---|---|
| | Industrial Areas Day/Night | Commercial Areas Day/Night | Residential Areas Day/Night |
| EU (UN / WHO) | 65 | 55 | 55/45 |
| Australia | 65/55 | 55/45 | 45/35 |
| Japan | 60/50 | 60/50 | 45/35 |
| USA | 70 | 60 | 45 |
| Romania | 65 | 65 | 50/40 |
| India | No data | 65/55 | 55/45 |
| Vietnam | 75/50 | 70/50 | 60/45 |
| Myanmar Guidelines | - | - | 55/45 |

### ၉-၃။ စက်ရုံတွင်းဖွဲ့စည်းထားရမည့်စောင့်ကြပ်လေ့လာရေးအဖွဲ့

စက်ရုံအတွင်းစောင့်ကြပ်လေ့လာရေးအဖွဲ့ အနေဖြင့်အောက်ဖော်ပြပါဇယားအတိုင်းဖွဲ့စည်းထား ရှိရမည်ဖြစ်ပါသည်။တာဝန်များအားသင်တန်းပေး၍ကျွမ်းကျင်မှုအလိုက်ပူးတွဲတာဝန်ပေးအပ်နိုင်ပါသည်။

| စဥ် | ပါဝင်ရမည့်သူ | အရေအတွက် |
|---|---|---|
| ၁ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက်တာဝန်ရှိသူ | ၁ |
| ၂ | အလုပ်ခွင်ကျန်းမာရေးနှင့်လုံခြုံရေးအတွက်တာဝန်ရှိသူ | ၁ |
| ၃ | တာဝန်ခံမန်နေဂျာ | ၁ |
| ၄ | တာဝန်ခံအင်ဂျင်နီယာ | ၁ |
| ၅ | အတွဲဝန်ထမ်းများ | ၂ |

### ၉-၄။ လစဥ်စောင့်ကြပ်သွားရမည့်စောင့်ကြပ်လေ့လာရေးအဖွဲ့

လစဥ်ပတ်ဝန်းကျင်စောင့်ကြပ်လေ့လာရေးတိုင်းတာမှုလုပ်ငန်းများလုပ်ဆောင်ရန်အောက်ပါအဆို ပြုအစောင့်ကြပ်လေ့လာရေးအဖွဲ့အား အောက်ဖော်ပြပါပုဂ္ဂိုလ်များဖြင့်ဖွဲ့စည်းထားရှိရန်လိုအပ်ပါသည်။




အဆိုပြုစောင့်ကြပ်လေ့လာရေးအဖွဲ့

အကယ်၍ပတ်ဝန်းကျင်ထိခိုက်မှု စောင့်ကြပ်လေ့လာရေးအားတတိယအဖွဲ့အစည်းဖြင့် လုပ်ဆောင် မည်ဆိုပါက အဆိုပါအဖွဲ့သည်ပူးပေါင်းပါဝင်မှုဖြင့်သာ ဆောင်ရွက်ရမည်ဖြစ်ပြီးအဖွဲ့ကိုယ်တိုင်ဖြင့် တိုင်း တာမည်ဆိုပါက မိမိပိုင်စက်ဖြင့် အဖွဲ့ဖြင့် တိုင်းတာရမည်ဖြစ်ပါသည်။ အဆိုပြုစက်ရုံအနေဖြင့် စောင့် ကြပ်လေ့လာရေးလုပ်ငန်းများ လုပ်ဆောင်မည်ဆိုပါက အထက်ဖော်ပြပါအဖွဲ့ဝင်များသို့ ဖိတ်ကြားပြီး အ နည်းဆုံး ဌာနဆိုင်ရာကိုယ်စားလှယ်တစ်ဦးနှင့် ရပ်မိရပ်ဖကိုယ်စားလှယ်တစ်ဦးတို့ပါဝင်မှသာလျှင် စောင့် ကြပ်လေ့လာမှုများအား လုပ်ဆောင်သင့်ပါသည်။

### ၉-၅။ မှတ်တမ်းထားရှိရမည့်အရာများ

လစဉ် စံသတ်မှတ်တိုင်းတာထားရှိရမည့်အရာများသည် စောင့်ကြည့်လေ့လာရေး အစီအစဉ်များ လုပ်ဆောင်ရာတွင် ပြန်လည်နှိုင်းယှဉ် တိုင်းတာနိုင်ရေးအတွက် မှတ်တမ်းပြုစု ထားရှိရမည်ဖြစ်ပါသည်။ မှတ်တမ်းပြုစုထားရှိရမည့်အချက်များအား အောက်ပါ တွင်ဖော်ပြအပ်ပါသည်။

| ထိခိုက်မှုများ | ထားရှိသွားရမည့် မှတ်တမ်းများ | မှတ်တမ်းရေးသွင်းရမည့်အကြိမ် |
|---|---|---|
| အမှုန်အမွှားလွင့်ထုတ်မှု | $PM_{10}$ နှင့် $PM_{2.5}$ သည်သတ်မှတ်စံချိန်စံညွှန်းအောက်ရှိ/မရှိမှတ်တမ်းများ | လစဉ် |
| အသံဆူညံမှု | အသံဆူညံမှု($L_{Aeq}$)သည်သတ်မှတ်စံနှုန်းအောက် ရှိ/မရှိမှတ်တမ်းများ | လစဉ် |
| မြေဆီလွှာညစ်ညမ်းမှု | မြေစမ်းသပ်မှုရလာဒ်များသည်သတ်မှတ်စံနှုန်းအောက် ရှိ/မရှိမှတ်တမ်းများ | လစဉ် |
| ဘိလပ်မြေအုတ်ပြုလုပ်မှု | ထွက်ရှိလာသော ကျောက်မှုန့်များအား ဘိလပ်မြေအုတ်ပြုလုပ်ရာတွင် ရာနှုန်းပြည့်အသုံးပြုနိုင်ခြင်းရှိ/မရှိ မှတ်တမ်းများ | လစဉ် |
| အမှိုက်စွန့်ပစ်မှု | အမှိုက်စွန့်ပစ်မှု/ပြန်လည်အသုံးပြုမှု မှတ်တမ်းများ | နေ့စဉ် |
| လျှပ်စစ်ဓါတ်အားသုံးစွဲမှု | နေ့စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှုမှတ်တမ်းများ | နေ့စဉ် |
| ရေသုံးစွဲမှု | နေ့စဉ်ရေသုံးစွဲမှုမှတ်တမ်းများ | နေ့စဉ် |
| သစ်ပင်စိုက်ပျိုးမှု | စိုက်ပျိုးသည့်အပင်နှင့်ရှင်သန်သည့်အပင်မှတ်တမ်းများ | အပတ်စဉ် ၃ နှစ်အထိ |

### ၉-၆။ စောင့်ကြည့်မှုရလာဒ်များအားအစီရင်ခံတင်ပြခြင်း

စောင့်ကြည့်တိုင်းတာမှုရလာဒ်များအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန(မွန်ပြည်နယ်)၊စက်မှု

ကြီးကြပ်ရေး နှင့်စစ်ဆေးရေးဦးစီးဌာန (မွန်ပြည်နယ်)၊ မြို့နယ်အုပ်ချုပ်ရေးမှူးရုံး (ကျိုက်မရောမြို့နယ်)၊ မြို့နယ်အုပ်ချုပ်ရေးမှူးရုံး (မော်လမြိုင်မြို့နယ်)၊ စက်မှုဇုန်ကြီးကြပ်ရေးကော်မတီ (မော်လမြိုင်စက်မှုဇုံ)၊ ရပ်ကွက်အုပ်ချုပ်ရေးမှူး (ညောင်ပင်ဆိပ်ရပ်ကွက်) အစရှိသည့်နေရာများသို့ လစဉ် (သို့မဟုတ်)လိုအပ်သလိုပေးပို့အစီရင်ခံ တင်ပြသွားရမည်ဖြစ်ပါသည်။

### ၉-၇။ ပတ်ဝန်းကျင်နှင့်သက်ဆိုင်သောစာရင်းများစစ်ဆေးခြင်း

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သက်ဆိုင်သော မှတ်တမ်းပြုစုထားရှိသည့် မှတ်တမ်းများသည် စနစ်တကျလုပ်ဆောင် ပြုစုထိန်းသိမ်းထားခြင်းရှိ/မရှိစာရင်းများနှင့်တာဝန်သိလူမှု အကျိုးပြုလုပ်ငန်းများအား စစ်ဆေးနိုင်ရေးအတွက် အောက်ဖော်ပြပါအတိုင်း အဆိုပြုတင်ပြထားပါသည်။

| စာရင်းစစ်အမျိုးအစား | အကြိမ် | အဖွဲ့အစည်း |
|---|---|---|
| စက်ရုံရှိရုံးအဖွဲ့ဖြင့်စစ်ဆေးခြင်း | လစဉ် | ကုမ္ပဏီရုံးအဖွဲ့ |
| ပြင်ပမှစာရင်းစစ်အဖွဲ့ဖြင့်စစ်ဆေးခြင်း | နှစ်စဉ် | ပြင်ပစာရင်းစစ်အဖွဲ့အစည်း |

### ၉-၈။ ပြန်လည်ပြင်ဆင်ရန်လိုအပ်ပါက ပြန်လည်သုံးသပ်ပြင်ဆင်ခြင်း

စာရင်းစစ်ဆေးချက်မှတွေ့ရှိချက်များနှင့်အကြံပြုချက်များအားပြန်လည်သုံးသပ်ပြီးစက်ရုံလည်ပတ်မှုနည်းစဉ်များ၊ အလုပ်သမား ကျန်းမာရေး စောင့်ရှောက်မှုများ၊ စောင့်ကြည့် လေ့လာရေး အကြိမ်အရေအတွက်၊ စွမ်းအင်သုံးစွဲမှုများ၊ လူမှုအကျိုးပြုရန်ပုံငွေသုံးစွဲမှုများအား လိုအပ်သလိုစံချိန်စံညွှန်းများနှင့်အညီ ပြန်လည်ပြင်ဆင်ရန်လိုအပ်သည်ဆိုပါက ပြင်ဆင်ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

## ၁၀။ တာဝ်သိလူမှုဖွံ့ဖြိုးမှုအစီအစဉ်များ (Corporate Social Responsibility Program)

တာဝန်သိ လူမှုဖွံ့ဖြိုးမှုရံပုံငွေအဖြစ် အတွက်အခွန်ဆောင်ပြီး နအသားတင်အမြတ်ငွေ၏ (၂) ရာခိုင်နှုန်းအား အနည်းဆုံးသုံးစွဲသွားရမည်ဖြစ်ပြီး Golden Flagmast ကုမ္ပဏီလီမိတက် အနေဖြင့် အောက်ဖော်ပြပါ တာဝန်သိ လူမှုဖွံ့ဖြိုးမှု အစီအစဉ်များအား အဆိုပါရံပုံငွေဖြင့် လုပ်ဆောင်သင့်ပါသည်။

### ၁၀-၁။ တာဝန်သိလူမှုဖွံ့ဖြိုးရေးရံပုံငွေ

အခွန်ဆောင်ပြီးအမြတ်ငွေ၏ (၂%) အား နှစ်စဉ် တာဝန်သိလူမှုဖွံ့ဖြိုးရေး ရံပုံငွေအဖြစ် ဒေသ အကျိုးပြုလုပ်ငန်းများတွင် သုံးစွဲသွားရမည်ဖြစ်ပါသည်။

စက်ရုံမှ တာဝန်သိလူမှုဖွံ့ဖြိုးရေးအစီအစဉ်များအနေဖြင့် စက်လည်ပတ်ခြင်းမရှိသေးသော်လည်း လုပ်ဆောင်ထားရှိကြောင်းတွေ့ရှိရပါသည်။ ယခင်ကလုပ်ဆောင်ခဲ့ပြီးဖြစ်သည့်တာဝန်သိလူမှုဖွံ့ဖြိုးမှုအစီအစဉ်များမှာအဓိကအားဖြင့်ညောင်ပင်ဆိပ်ရပ်ကွက်လူမှုရေးအသင်းများ သို့ လှူဒါန်းခြင်း၊ ရပ်ကွက် သာရေးနာရေးများတွင် တစ်တပ်တစ်အားပါဝင်လှူဒါန်းခြင်းတို့ဖြစ်ပါသည်။

## ၁၀-၂။ တာဝန်သိလူမှုဖွံ့ဖြိုးရေးတာဝန်ခံ

တာဝန်သိ လူမှုဖွံ့ဖြိုးမှုရံပုံငွေအား လူမှုအကျိုးပြုလုပ်ငန်းများတွင် အကျိုးရှိစွာ သုံးစွဲနိုင်ရန်နှင့် စီမံခန့်ခွဲနိုင်ရေးအတွက် တာဝန်သိ လူမှုဖွံ့ဖြိုးအရာရှိ (သို့) တာဝန်ခံအား ခန့်ထားပေးရမည်ဖြစ်ပါသည်။ အဆိုပါ တာဝန်ခံအနေဖြင့် ရံပုံငွေအား ဒေသခံ အာဏာပိုင်များ၊ ရပ်မိရပ်ဖများ၊ လူမှုအဖွဲ့ အစည်းများ၏ သဘောထားဆန္ဒများနှင့်အညီ အကျိုးရှိစွာ ခွဲဝေသုံးစွဲနိုင်ရေးအတွက် စီမံဆောင်ရွက် သွားရမည်ဖြစ်ပါသည်။ ၎င်းအပြင် လူမှုဖွံ့ဖြိုးရေးတာဝန်ခံအနေဖြင့် စက်ရုံ နှင့် ပတ်ဝန်းကျင် လူနေရပ်ကွက်များ ဆက်ဆံရေးကောင်းမွန်ရေးအတွက် ငွေအားဖြင့်ကူညီခြင်းထက် ကိုယ်တိုင်ကိုယ်ကျ ပူးပေါင်းပါဝင်ကူညီခြင်းအားဖြင့် ပိုမိုခိုင်မာသော ဆက်ဆံရေးအားတည်ဆောက်နိုင်ပါသည်။

## ၁၀-၃။ အဆိုပြုတာဝန်သိလူမှုအကျိုးပြုလုပ်ငန်းများ

အောက်ဖော်ပြပါလုပ်ငန်းများအား တာဝန်သိလူမှုဖွံ့ဖြိုးမှုအစီအစဉ်များအဖြစ် အဆိုပြုတင်ပြထားပါသည်။

### (က) ပညာရေးအတွက်သုံးစွဲခြင်း

အနီးအနားရှိကျောင်းများတွင် ဆင်းရဲနွမ်းပါးသောကျောင်းသားများအားအလှူငွေများပုံမှန်လှူဒါန်းခြင်းအားဖြင့် အနီးအနား ဒေသဖွံ့ဖြိုးရေး အတွက် တစ်နည်းအားဖြင့် အထောက်အကူပြုရာ ရောက်ပါသည်။

### (ခ) တွန့်ကရစ်အုတ်များအားလှူဒါန်းခြင်း

စက်ရုံမှထုတ်လုပ်ရရှိသောတွန့်ကရစ်အုတ်များအားသဘာဝပတ်ဝန်းကျင်အပေါ် ထိခိုက်မှုမရှိကြောင်း စစ်ဆေးချက်များနှင့်တစ်ကွ အနီးအနား ရပ်ကွက်များရှိ ဘာသာရေးအဆောက်အဦးများ၊ ပညာရေး နှင့် လမ်းတံတားအဆောက်အဦးများဆောက်လုပ်ရာတွင်လှူဒါန်းသင့်ပါသည်။

**(ခ) ရပ်ကွက်အတွင်းရှိသာရေးနာရေးအဖွဲ့များသို့ပံ့ပိုးလှူဒါန်းပေးခြင်း**

ကွင်းဆင်းလေ့လာချက်များအရ ညောင်ပင်ဆိပ်ရပ်ကွက်အတွင်းရှိ မွန်မြတ်သောနှလုံးသားပိုင်ရှင်များ နာရေးကူညီမှုအသင်းသည် အနီးအနားရပ်ကွက်များတွင် သာရေးနာရေးအကူအညီများအား ကူညီပေးလျက်ရှိခြင်းကြောင့် အဆိုပါနာရေးကူညီမှုအသင်းအား ထောက်ပံ့လှူဒါန်းပေးသင့်ပါသည်။

**(ဂ) ရွာအတွင်းလမ်းများကောင်းမွန်မှုရှိစေရေးအတွက်လုပ်ဆောင်ခြင်း**

ကွင်းဆင်းလေ့လာချက်များအရ စက်မှုဇုန်အနီးအနားရှိရပ်ကွက်များတွင် မြေသားလမ်းများ အဓိကခင်းထားခြင်းကြောင့်ရပ်ကွက်သူရပ်ကွက်သားများအနေဖြင့်ကွန်ကရစ်လမ်းများခင်းပေးရန်ဆန္ဒရှိခြင်းကြောင့် စက်ရုံအနေဖြင့်ကျေးရွာများအတွင်း လမ်းပန်းဆက်သွယ်မှု ကောင်းမွန်စေရေးအတွက်အလှူငွေများမတည်လှူဒါန်းပေးသင့်ပါသည်။

**၁၀-၄။ ရန်ပုံငွေသုံးစွဲမှုအားပွင့်လင်းမြင်သာမှုရှိစေရန်ချပြဆွေးနွေးခြင်း**

လူမှုဖွံ့ဖြိုးမှုရံပုံငွေ သုံးစွဲမှုများအား ပြင်ပစာရင်းစစ်အစီရင်ခံစာနှင့်တစ်ကွကုမ္ပဏီပိုင်ဝက်ဆိုဒ် (သို့) ကုမ္ပဏီနှစ်စဉ်အစီရင်ခံစာ အစရှိသည်တို့တွင် နှစ်စဉ်ဖော်ပြပြီး ဒေသခံပြည်သူအများသိရှိစေရန် လုပ်ဆောင်သွားရမည်ဖြစ်ပါသည်။ သို့မှသာလျှင် ပွင့်လင်းမြင်သာမှုရှိပြီး အများ ယုံကြည် လက်ခံသော စီမံကိန်းအဖြစ် လုပ်ဆောင် သွားနိုင်မည်ဖြစ်ပါသည်။

**၁၁။ အကြံပြုတင်ပြချက်အနှစ်ချုပ်**

အဆိုပြုစက်ရုံအနေဖြင့်အောက်ပါအချက်များအားအဓိကထားလုပ်ဆောင်သွားရမည်ဖြစ်ပါသည်။

(က)ဝယ်ရရှိသောသတ္တုရိုင်းများအားကွန်ကရစ်အခင်းအမိုးအကာများဖြင့်ထားရှိရမည်ဖြစ်ပါသည်။

(ခ) စွန့်ပစ်ကျောက်မှုန့်များအား ပြင်ပသို့လုံးဝစွန့်ပစ်ခြင်းမပြုပဲ ဘိလပ်မြေအုတ်ပြုလုပ်ရာတွင် ရာနှုန်းပြည့်ပြန်လည်အသုံးပြုရမည်ဖြစ်ပါသည်။

(ဂ) အက်ဆစ်ငွေ့များ ပြင်ပသို့ ထွက်ရှိခြင်း ရှိ/မရှိ အချိန်နှင့် တစ်ပြေးညီ သိရှိနိုင်ရန်အတွက် ဟိုက်ဒရိုကလိုရစ် အက်ဆစ်ငွေ့တိုင်းတာသည့်ကိရိယာများအား ကျောက်မှုန့်နှင့် အက်ဆစ်ရောစပ်သည့်ကန်များအနီး၊ လျှပ်ကူးကန်များအနီးနှင့် လျှပ်ကူးကန်များမှ အက်ဆစ်ငွေ့များအား စုပ်ယူပြီး ရေပက်ဖြန်းထားရှိသည့် ခေါင်းတိုင်တို့တွင် တပ်ဆင်ထားရှိရမည်ဖြစ်ပါသည်။

(ဃ) အမှုန်အမွှားများနှင့်ဆူညံသံဘေးပတ်ဝန်းကျင်သို့ရောက်ရှိမှုနည်းပါးစေရန် စက်ရုံပတ်ပတ်လည်တွင်သစ်ပင်များမဖြစ်မနေ စိုက်ပျိုးပေးရမည်ဖြစ်ပါသည်။

(ဃ) အသက်ရှုလမ်းကြောင်းဆိုင်ရာ အကာအကွယ်ပစ္စည်းများ(နှာခေါင်းစည်း၊ မျက်မှန်၊ လက်အိတ်နှင့် နားကြပ်များကိုသက်ဆိုင်ရာအလုပ်သမားများအား လုံလောက်စွာ ပံ့ပိုးပေးပြီး ဝတ်ဆင်မှုရှိရန်လည်း ပညာပေးအစီ အစဉ်များ၊ ဆုပေး/ဒဏ်ပေးအစီအစဉ်များဖြင့်ထိန်းချုပ် ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

(င) အလုပ်ခွင်ထိခိုက်မှုလုံးဝမရှိစေရေး ဦးတည်အလေးထားပြီး ဆောင်ရွက်ရမည်ဖြစ်ပါသည်၊

(စ) လျှပ်စစ်ဓါတ်အားချွေတာခြင်းသည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးအပြင် စက်ရုံလည်ပတ်ခြင်း ကုန်ကျစရိတ်အားလည်းသက်သာစေသဖြင့် အထူးအလေးထားလုပ်ဆောင် သွားရန်လိုအပ် ပါသည်။

## ၁၂။ သုံးသပ်တင်ပြချက်

အဆိုပြုစက်ရုံသည် တည်နေရာ အနေအထားနှင့် လျှပ်ကူးနည်းပညာ၏အားသာချက်တို့ကြောင့် ပတ်ဝန်းကျင်အပေါ် ထိခိုက်မှုနည်းပါးပါသည်။ ပတ်ဝန်းကျင်နှင့် အလုပ်သမားများအပေါ် ထိခိုက်မှုရှိနိုင်သည်များ အားလုံးအားလည်း ယခု ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက်တွင် ဖော်ပြထားရှိသော အစီအမံများ၊ ကာကွယ်လုပ်ဆောင်ထားရှိမှုနည်းလမ်းများအတိုင်းလုပ်ဆောင်ပြီး ပုံမှန်စောင့်ကြည့် ထိန်းသိမ်းသွားမည်ဆိုပါက စံသတ်မှတ်ချက်များ၊ လက်ရှိဥပဒေများ နှင့်ကိုက်ညီမှုရှိမည်ဖြစ်၍အစီရင်ခံစာပါလုပ်ဆောင်ရန် လိုအပ်သည်များအားလုပ်ဆောင်မည်ဆိုပါက လည်ပတ်ခွင့် ပြုနိုင်ပါကြောင်းသုံးသပ် ရရှိပါသည်၊

# နောက်ဆက်တွဲ (က)

## မြေတိုင်းတာမှုရလာဒ်များ

## တိုင်းတာခဲ့သည့်ဓါတ်ခွဲခန်း - တက္ကသိုလ်များသုတေသနဗဟိုဌာန

Sample : Zin Thu Aung G1
Operator: NTD
Comment : pallet
Group : Solid Air
Date : 2016-01-26 10:43:40



Measurement Condition

| Instrument: EDX-720 | Atmosphere: Air | Collimator: 10 (mm) | | | | | | |
|---|---|---|---|---|---|---|---|---|
| Analyte | TG kV | uA | FI | Acq. (keV) | Anal. (keV) | Time (sec) | DT (%) |
| Si-U | Rh 50 | 31-Auto | ---- | 0 - 40 | 0.02-40.00 | Live- 100 | 40 |




Quantitative Result

| Analyte | Result | [3-sigma] | Proc.-Calc. | Line | Int. (cps/uA) |
|---|---|---|---|---|---|
| Fe | 49.738 % | [ 0.140] | Quan-FP | FeKa | 384.5284 |
| Al | 24.281 % | [20.800] | Quan-FP | AlKa | 0.0918 |
| Si | 19.426 % | [ 3.409] | Quan-FP | SiKa | 0.4705 |
| K | 3.608 % | [ 0.102] | Quan-FP | K Ka | 2.9404 |
| Ti | 2.014 % | [ 0.038] | Quan-FP | TiKa | 7.0261 |
| S | 0.311 % | [ 0.245] | Quan-FP | S Ka | 0.0732 |
| Zr | 0.197 % | [ 0.010] | Quan-FP | ZrKa | 5.0382 |
| Mn | 0.117 % | [ 0.019] | Quan-FP | MnKa | 0.7632 |
| V | 0.099 % | [ 0.020] | Quan-FP | V Ka | 0.4996 |
| Cr | 0.061 % | [ 0.015] | Quan-FP | CrKa | 0.3949 |
| Cu | 0.050 % | [ 0.019] | Quan-FP | CuKa | 0.2933 |
| Y | 0.032 % | [ 0.007] | Quan-FP | Y Ka | 0.7267 |
| Ga | 0.026 % | [ 0.014] | Quan-FP | GaKa | 0.2250 |
| Nb | 0.021 % | [ 0.007] | Quan-FP | NbKa | 0.5745 |
| Zn | 0.020 % | [ 0.015] | Quan-FP | ZnKa | 0.1442 |

Sample : Zin Thu Aung G2
Operator: NTD
Comment : pallet
Group : Solid Air
Date : 2016-01-26 10:47:45

Measurement Condition

Instrument: EDX-720 Atmosphere: Air Collimator: 10(mm)

| Analyte | TG | kV | uA | FI | Acq.(keV) | Anal.(keV) | Time(sec) | | DT(%) |
|---|---|---|---|---|---|---|---|---|---|
| Si-U | Rh | 50 | 44-Auto | ---- | 0 - 40 | 0.02-40.00 | Live | 100 | 40 |




Quantitative Result

| Analyte | Result | [3-sigma] | Proc.-Calc. | Line | Int.(cps/uA) |
|---|---|---|---|---|---|
| Fe | 44.537 % | [ 0.132] | Quan-FP | FeKa | 239.6845 |
| Si | 33.270 % | [ 4.184] | Quan-FP | SiKa | 0.6808 |
| Al | 13.383 % | [20.744] | Quan-FP | AlKa | 0.0382 |
| K | 4.759 % | [ 0.121] | Quan-FP | K Ka | 2.6480 |
| Ti | 2.844 % | [ 0.047] | Quan-FP | TiKa | 6.6011 |
| S | 0.419 % | [ 0.258] | Quan-FP | S Ka | 0.0684 |
| Zr | 0.192 % | [ 0.011] | Quan-FP | ZrKa | 3.7466 |
| V | 0.141 % | [ 0.025] | Quan-FP | V Ka | 0.4717 |
| Cr | 0.131 % | [ 0.018] | Quan-FP | CrKa | 0.5551 |
| Mn | 0.079 % | [ 0.020] | Quan-FP | MnKa | 0.3540 |
| Zn | 0.064 % | [ 0.020] | Quan-FP | ZnKa | 0.3465 |
| Cu | 0.053 % | [ 0.023] | Quan-FP | CuKa | 0.2370 |
| Ni | 0.036 % | [ 0.026] | Quan-FP | NiKa | 0.1382 |
| Y | 0.031 % | [ 0.009] | Quan-FP | Y Ka | 0.5486 |
| Ga | 0.024 % | [ 0.016] | Quan-FP | GaKa | 0.1618 |
| Sr | 0.020 % | [ 0.008] | Quan-FP | SrKa | 0.3101 |
| Nb | 0.016 % | [ 0.008] | Quan-FP | NbKa | 0.3345 |

# နောက်ဆက်တွဲ (ခ)

## စက်ရုံအတွင်းရှိအဝီစိတွင်းရေတိုင်းတာမှုရလာဒ်

## တိုင်းတာသည့်ဓါတ်ခွဲခန်း - အမျိုးသားတျန်းမာရေးဓါတ်ခွဲခန်း

The Republic of The Union of Myanmar
Ministry of Health
Department of Medical Services
**National Health Laboratory**
No.(35),Hmaw Kon Daik Street,Dagon Township,Yangon.
Ph : 371957 Fax : 371925

# LABORATORY REPORT

## WATER CHEMICAL ANALYSIS REPORT

Name : Green-Tech
Date of Receipt : 20.1.2016
Reg: No : 120
Address :
Source of Water : Tube well water

Lab. Code No. : 120
Date of Report : 4.2.2016
Reg: Vol. No : 17

| Test | Result | Unit | Maximum Permissible Limit |
|---|---|---|---|
| Colour (TCU) | 15.00 | Pt-Co | 20 |
| Turbidity | 5.00 | NTU | 5 |
| Total dissolved solvents | 288.00 | mg/l | 1000 |
| Chloride | 21.00 | mg/l | 250 |
| Copper | 0.030 | mg/l | 2 |
| Total hardness (as Ca $CO_3$) | 140.00 | mg/l | 500 |
| Iron | 1.00 | mg/l | 1 |
| pH | 7.10 | | 6.5-8.5 |
| Sulphate | 69.10 | mg/l | 400 |
| Zinc | 0.010 | mg/l | 5 |
| Calcium | 28.00 | mg/l | 200 |
| Magnesium | 19.60 | mg/l | 150 |
| Electrical conductivity | 331.50 | µs/cm | 1500 |

**Remark**
Within maximum permissible limit.

Technician

Dr.Swe Setk
Senior Consultant Pathologist
Head of Clinical Pathology
National health Laboratory
Yangon